မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဖြင့် Jade Marina Resort Hotel Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေး သို့ တင်ပြရန် ကြာချိန်

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၄-၁-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး | ၂၂-၁-၂၀၁၆ | ၁၁-၂-၂၀၁၆ | (၂၀)ရက် |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာ ဝန်ကြီးဌာန | ၂၂-၁-၂၀၁၆ | ၁၆-၂-၂၀၁၆ | (၂၅)ရက် |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန | ၂၂-၁-၂၀၁၆ | ၄-၂-၂၀၁၆ | (၁၃)ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၄/၂၀၁၆)သို့ တင်ပြခြင်း | ၂၅-၁-၂၀၁၆ | | |
| ၄ | အဆိုပြုချက် လက်ခံကြောင်း ပြန်ကြားခြင်းနှင့် အဆိုပြုချက် စိစစ်ရေးအဖွဲ့အစည်းအဝေး (၄/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီ တင်ပြရန် အကြောင်းကြားခြင်း | ၂-၂-၂၀၁၆ | | |
| ၅ | ကုမ္ပဏီမှ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၃-၂-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | ၂၄-၂-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၇/၂၀၁၆ | |
| | စုစုပေါင်းကြာမြင့်ရက် | ( ၄၁ ) ရက် | | |

ကုမ္ပဏီအမည် - Jade Marina Resort Hotel Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု
Jade Marina Resort Hotel Co., Ltd. (၁၀၀%)

လုပ်ငန်းအမျိုးအစား - နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

တည်နေရာ - ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) မြေဧရိယာ (၆.၆၀) ဧက

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၇,၁၆၉.၀၀ သန်း

လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ်

အရင်းကြေကာလ - ၉ နှစ် ၆ လ

IRR - ၁၃.၃၁ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင် ကြေး | | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၅၈၀.၃၇ သန်း |
| ၄ | သွင်းကုန်အခွန် ကင်းလွတ်ခွင့် | - | |
| ၅ | ဝင်ငွေခွန် | ကျပ် ၈၀၂.၂၃ သန်း | ကျပ် ၂၅၁၅.၇၅ သန်း |
| ၆ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | ကျပ် ၅.၁၃ သန်း |
| ၇ | CSR (၁ %) | | ကျပ် ၄၉.၇၂ သန်း |
| ၈ | လျှပ်စစ်ဓါတ်အား သုံးစွဲခ | | ကျပ် ၆၇၇.၂၈ သန်း |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်း(၈၇)ဦးနှင့် ပြည်ပ (၁)ဦး |
| | | ပြည်တွင်း လုပ်သား(၈၇)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ | |
| | | **ကျပ် ၈၀၄.၃၉ သန်း** | **ကျပ် ၃၈၂၉.၄၂ သန်း** |
| | Cost : Benefit | ၁ : ၅ | |

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် Jade Marina Resort Hotel Co., Ltd. မှ B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့်စပ်လျဥ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - | Jade Marina Resort Hotel Co., Ltd.<br>ဒေါ်မြင့်မြတ်သူ |
| ၂ | အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု<br>Jade Marina Resort Hotel Co., Ltd. (၁၀၀ %) |
| ၃ | လုပ်ငန်းအမျိုးအစား | - | နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| ၄ | တည်နေရာ | - | ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) |
| ၅ | မြေအကျယ်အဝန်း | - | မြေဧရိယာ ၆.၆၀ ဧက |
| ၆ | နှစ်စဥ်မြေငှားရမ်းခ | - | ကျပ် ၃၃၀ သိန်း နှင့် US$ ၁၆၅၀၀ (၂)မျိုးလုံးဖြင့် နှစ်စဥ်ပေးသွင်းပါမည်။ |
| ၇ | မြေအသုံးချမှုပရီမီယံကြေး | - | ၁ဧကလျှင် ကျပ် ၂၅၀၀ သိန်းနှုန်း ဖြင့် စုစုပေါင်း ကျပ် ၁၆၅၀၀ သိန်း |
| ၈ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - | Generator (၅)လုံး<br>(410 KVA (၂)လုံး၊ 200 KVA (၁)လုံး၊ 130 KVA (၁)လုံး၊ 44 KVA (၁)လုံး) |
| ၉ | လုပ်ငန်းသက်တမ်း | - | ကနဦး နှစ် ၅၀ |
| ၁၀ | တည်ဆောက်ရေးကာလ | - | ၂ နှစ် |
| ၁၁ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | - | **- ကျပ် ၇,၁၆၉.၀၀ သန်း** |

| | မူလ ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း)(PHASE 1) | ထပ်မံတိုးချဲ့မည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း) (PHASE 2) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း) |
|---|---|---|---|
| - ငွေသား | ၂၀၂.၄၉ | ၈၀၀.၀၀ | ၁၀၀၂.၄၉ |
| - စက်ပစ္စည်းကိရိယာများ တန်ဖိုး | ၉၂.၂၀ | ၉၇.၇၂ | ၁၈၉.၉၂ |
| - အဆောက်အဦ/ မြေတန်ဖိုး | ၄၆၂၅.၀၂ | ၄၈၁.၂၃ | ၅၁၀၆.၂၅ |
| - ပရိဘောဂနှင့် လုပ်ငန်း သုံးပစ္စည်းများ တန်ဖိုး | ၁၆၃.၀၃ | ၈၇.၅၁ | ၂၅၀.၅၄ |
| - လုပ်ငန်းသုံး မော်တော်ယာဥ်ပစ္စည်းများ တန်ဖိုး | ၁၈၀.၀၀ | ၂၆၅.၀၀ | ၄၄၅.၀၀ |
| - ထောက်ပံ့ပစ္စည်းများ တန်ဖိုး | ၁၆၄.၈၀ | - | ၁၆၄.၈၀ |
| စုစုပေါင်း | ၅၄၃၇.၅၄ | ၁၇၃၁.၄၆ | ၇၁၆၉.၀၀ |

| | | | |
|---|---|---|---|
| ၁၂ | ဝန်ဆောင်မှု (၆ နှစ်မြောက်) | | |

| စဉ် | ဝန်ဆောင်မှု ပေးမည့် ဧရိယာ အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) US$ |
|---|---|---|---|
| (က) | Beach Front Villa | ၈ | ၂၀၀ |
| (ခ) | Sea View Villa | ၁၂ | ၁၇၀ |
| (ဂ) | Corner Suite | ၄ | ၁၅၀ |
| (ဃ) | Deluxe | ၆၄ | ၁၀၀ |
| | စုစုပေါင်း | ၈၈ | |

| | | | |
|---|---|---|---|
| ၁၃ | ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | -<br>-<br>- | ကျပ် ၂၃၂၀.၉၈ သန်း<br>ကျပ် ၁၅၆၂.၆၆ သန်း<br>ကျပ် ၇၅၈.၃၂ သန်း |
| ၁၄ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>-<br>- | <br>ကျပ် ၂၉၁.၄၆ သန်း<br>ကျပ် ၁၁၆.၀၅ သန်း |
| ၁၅ | အရင်းကြေကာလ | - | ၉ နှစ် ၆ လ |
| ၁၆ | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - | ၁၃.၃၁ % |
| ၁၇ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | -<br>-<br><br>- | **၈၈ ဦး**<br>၈၇ ဦး (တစ်လလျှင် ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် ဝန်ထမ်းတစ်ဦး၏ အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။)<br>၁ ဦး (တစ်လလျှင် ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။) |
| ၁၈ | ငွေကြေးအထောက်အထား | - | ကျပ်ငွေအထောက်အထားအဖြစ် Jade Marina Resort Hotel Co., Ltd. ၏ အမည်ဖြင့် CB ဘဏ်တွင် (၁၇-၁၁-၂၀၁၅) နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၃၀,၁၀၀,၀၂၅.၀၀ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၉ | (၁၃-၉-၂၀၀၇) နေ့တွင် ချုပ်ဆိုပြီး စာချုပ်ပါ အဓိကအချက်များ | - | ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် Kyauk Seinn Nagar (Gems) Co., Ltd. တို့ B.O.T စနစ်ဖြင့် ငပလီကမ်းခြေရှိ တပ်ပိုင်မြေဧရိယာ (၆.၆၀)ဧကကို (၁၃-၉-၂၀၀၇)ရက်စွဲဖြင့် နေပြည်တော်တွင် ချုပ်ဆိုခဲ့ပါသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေး အမှတ်စဉ် (၂၅/၂၀၀၇) |

| | | | |
|---|---|---|---|
| | | | ဆုံးဖြတ်ချက်အရ ငှားရမ်းခြင်းသက်တမ်း ကနဦး(၃၀)နှစ် နှင့် နောက်ထပ်(၅)နှစ် (၂) ကြိမ် စုစုပေါင်း နှစ်(၄၀) ငှားရမ်းမည်ဖြစ်သည်။ မြေဧရိယာ (၆.၆၀)ဧက အတွက် ငှားရမ်းခ နှုန်းထားကို အောက်ပါအတိုင်း ပေးဆောင်ရမည်-<br>(က) မြေငှားရမ်းခအား (၁-၁-၂၀၀၇) ရက်နေ့မှစ၍ တွက်ချက်ရမည်။<br>(ခ) မြေငှားရမ်းခအဖြစ် တစ်နှစ်အတွက် ငွေကျပ် သိန်း(၃၃၀)နှင့် အမေရိကန်ဒေါ်လာ (သို့) အက်ဖ်အီးစီ (၁၆၅၀၀) နှစ်မျိုးလုံး ပေးသွင်းရမည်။<br>(ဂ) နှစ်စဉ် ငှားရမ်းခကို (၆)လလျှင် တစ်ကြိမ်၊ (၂)ကြိမ်ခွဲ၍ ပေးသွင်းရမည်။<br>(ဃ) မြေငှားရမ်းခကို (၅)နှစ် (၁) ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ ထပ်မံတိုးမြှင့်မည်ဆိုပါက မူလငှားရမ်းခ၏(၁၅%) ထက် မကျော်လွန်စေရ။<br>(င) စာချုပ် ချုပ်ဆိုမည့် နေ့မှစ၍ (၂)နှစ်အတွင်း အပြီးဆောက်လုပ်၍ ဖွင့်လှစ်ရမည်။ ဖွင့်လှစ်နိုင်ခြင်း မရှိပါက ငှားရမ်းထားသော မြေအား အငှားချထားသူထံသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူမှ ပေးသွင်းခဲ့သော မြေငှားရမ်းခများကို ပြန်လည်ထုတ်ပေးခြင်း မရှိစေရ။ |
| ၂၀ | ချုပ်ဆိုမည့်စာချုပ် (မူကြမ်း)ပါ တင်ပြချက်များ | - | ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) နှစ်စဉ်မြေငှားရမ်းခကာလမှာ ကနဦးနှစ်(၅၀)နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းမည် ဖြစ်ပါသည်။ **အပိုဒ်-၃(ခ)**<br>(၂) နှစ်စဉ် မြေငှားရမ်းခအား တစ်နှစ်လျှင် ကျပ် (၃၃၀)သိန်းနှင့် US$-၁၆၅၀၀ နှစ်မျိုးလုံးဖြင့် နှစ်(၅၀) ပေးသွင်းမည် ဖြစ်သည်။ **အပိုဒ်-၄(ခ)**<br>(၃) မြေအသုံးချမှုပရီမီယံကြေးအဖြစ် စုစုပေါင်း ကျပ်(၁၆၅၀၀) သိန်း ပေးသွင်းမည်ဖြစ်ပြီး မြေ(၁)ဧကလျှင် ကျပ်(၂၅၀၀) သိန်းနှုန်းဖြင့်-<br>(က) B.O.Tစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁)လ အတွင်း ပထမအကြိမ် (၂၅%)<br>(ခ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၈)လ အတွင်း ဒုတိယအကြိမ် (၂၅%) |

| | | | |
|---|---|---|---|
| | | | (ဂ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁၆)လအတွင်း တတိယအကြိမ် (၂၅%)<br>(ဃ) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၂၄)လအတွင်း စတုတ္ထအကြိမ် (၂၅%)<br>(င) မြေအသုံးချမှု ပရီမီယံကြေးကို အထက်ပါသဘောတူညီချက် အတိုင်း အချိန်မီ ပေးချေခြင်း မရှိပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့်ငွေ၏(၀.၀၅%) နှင့် ညီမျှသော ငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေး ဆောင်ရမည်။ **အပိုဒ်-၄(ဂ)**<br>(၄) နှစ်စဉ်မြေငှားရမ်းခနှုန်းထားကို (၅)နှစ်တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်၍ ငှားရမ်းခထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့် မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%) ထက် မကျော်လွန်စေရ။ **အပိုဒ်-၄(ဈ)**<br>(၅) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်း တိုးမြှင့်လိုပါက ကနဦး သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး(၃)လ ကြိုတင်၍ အငှားချထားသူသို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။ ကနဦး နှစ်(၅၀)ငှားရမ်းပြီး နှစ်ဖက် သဘောတူညီချက် ရရှိပြီးပါက တစ်ကြိမ်လျှင် (၁၀) နှစ်ဖြင့် သက်တမ်း(၂)ကြိမ်အထိ စာချုပ် သက်တမ်း တိုးမြှင့်နိုင်သည်။ သက်တမ်း တိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိမှသာ အတည် ဖြစ်စေရမည်။ **အပိုဒ်-၈(ခ)**<br>(၆) ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလစာချုပ်အား ပယ်ဖျက်၍ ဤသဘောတူ စာချုပ်အား အစားထိုးရမည် ဖြစ်ပါသည်။ **အပိုဒ်-၂၂** |
| ၂၁ | အခြားတင်ပြချက် | -<br><br><br><br><br><br>- | လုပ်ငန်း၏ နှစ်စဉ်အသားတင် အမြတ်ငွေ ၁% အား လူမှုရေးဆိုင်ရာ တာဝန်ယူမှု(CSR)အဖြစ် သုံးစွဲသွားမည့်အစီအစဉ် နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ မီးဘေး ကြိုတင် ကာကွယ်ရေးစီမံချက် နှင့် လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက် အစီအစဉ်တို့အား တင်ပြထားပါသည်။<br>အဆောက်အဦအကွက်ချပုံစံ (Site Plan) အဆောက်အဦအမျိုးအစား အလိုက်၏ အရေအတွက်ပုံစံ (Drawing) များအား တင်ပြထားပါ သည်။ |

- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ငပလီကမ်းခြေတွင် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် လုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီ အမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည်နေရာ |
|---|---|---|---|
| ၁ | ပုဂံသံတဲဟိုတယ် အုပ်စု ကုမ္ပဏီ လီမိတက် ၇၀၁/ ၂၀၀၉ (၃၀-၆-၂၀၀၉) | B.O.T စနစ်ဖြင့် ဟိုတယ်လုပ်ငန်း | ရခိုင်ပြည်နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-40) |
| ၂ | Eden Hotels & Resort Co.,Ltd. ၁၀၂၃/၂၀၁၅ (၇-၁-၂၀၁၅) | B.O.T စနစ်ဖြင့် ကြယ်ငါးပွင့်အဆင့်ရှိ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်းကျေးရွာ အုပ်စု၊ ကွင်းအမှတ်-၂၀၁ (ကွန်းခြံကွင်း)၊ ဦးပိုင် အမှတ် -၁၈-က၊င၊ ၂၆-က၊ ၂၆-ခ၊ ဃ၊င၊ ၂၇-က-ခ-ဃ၊ ၂၈ |
| ၃ | Adventure MyanmarTour & Incentives Co., Ltd. ၁၀၆၉/၂၀၁၅ (၂၄-၇-၂၀၁၅) | B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်းကျေးရွာ အုပ်စု၊ ကွင်းအမှတ် (၂၀၂)၊ ဦးပိုင်အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊စ၊ ၁၀၈-က၊ခ၊ ငပလီကမ်းခြေ |
| ၄ | Fortune International Limited ၁၁၀၉ /၂၀၁၅ (၁၆-၁၂-၂၀၁၅) | B.O.T စနစ်ဖြင့် အခန်း (၁၀၀)ပါ နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ မြေကွက် အမှတ်-၃၈၊ ကွင်းအမှတ်-၂၀၁ (ကွန်းခြံကွင်း)၊ ဦးပိုင်အမှတ်-စ/၂၁+ ဆ/၂၁+ ဃ/၂၁+ ခ/၂၁+ က/၂၂+ ခ/၂၂ ရှိ မြေဧရိယာ (၂.၆၃) ဧက နှင့် ကွင်းအမှတ်-၂၀၂ (ဇီးဖြူကုန်းကွင်း)၊ ဦးပိုင် အမှတ်- N/၁၄+ က/၉၅/၁+ က/၉၅/၂+ ၉၆ ရှိ မြေဧရိယာ (၃.၀၂) ဧက |

| | | |
|---|---|---|
| ၂၂ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းတွင် Deluxe (၁၆) ခန်းပါဝင်သော နှစ်ထပ်အဆောက်အဦ (၃) လုံးအား ထပ်မံတိုးချဲ့ ဆောက်လုပ်သွားမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ လက်ရှိအခန်း အရေအတွက်မှာ ၄၀ ခန်းနှင့် ထပ်မံ တိုးချဲ့မည့်အခန်းအရေအတွက် ပထမ ၂ နှစ်တွင် ၁၆ ခန်း၊ ဒုတိယ ၂ နှစ်တွင် ၁၆ ခန်း၊ တတိယ ၂ နှစ်တွင် ၁၆ ခန်းဖြင့် စုစုပေါင်း ၈၈ ခန်းဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်ရရှိထားသည့်အပြင် ကာကွယ်ရေးဝန်ကြီးဌာနပိုင် အမည်ပေါက်ရရှိထားပြီး ဖြစ်ပါသည်။<br>- B.O.T စနစ်ဖြင့် ကာကွယ်ရေးဝန်ကြီးဌာန နှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုမည့်ကုမ္ပဏီမှာ Jade Marina Resort Hotel Co., Ltd. (Kyauk Seinn Nagar(Gems) Co., Ltd.) အမည်နှစ်မျိုးလုံးဖြင့် စာချုပ် ချုပ်ဆိုမည်ဖြစ်ပါသည်။<br>- Jade Marina Resort Hotel Co., Ltd. နှင့် Kyauk Seinn Nagar(Gems) Co., Ltd. ကုမ္ပဏီတို့မှာ အတူတူဖြစ်ပါကြောင်း၊ ပြဿနာတစ်စုံတစ်ရာပေါ်ပေါက်လာပါက တာဝန်ယူဖြေရှင်းသွားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။<br>- Jade Marina Resort Hotel Co., Ltd. တွင် ဒါရိုက်တာ (၅)ဦးဖြင့် ဖွဲ့စည်းထားပြီး Kyauk Seinn Nagar(Gems) Co., Ltd. တွင် ဒါရိုက်တာ (၁၁)ဦးဖြင့် ဖွဲ့စည်းထားပါသည်။<br>- Kyauk Seinn Nagar(Gems) Co., Ltd. တွင် ပါဝင်သည့် ဒါရိုက်တာ (၁၁)ဦးအနက် (၅)ဦးမှာ Jade Marina Resort Hotel Co., Ltd. တွင် ပါဝင်သော ဒါရိုက်တာများဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလစာချုပ်အား ပယ်ဖျက်၍ ယခုချုပ်ဆိုမည့် သဘောတူ စာချုပ်အား အစားထိုး ချုပ်ဆိုမည်ဖြစ်ကြောင်း မြေငှားစာချုပ်(မူကြမ်း) အပိုဒ် (၂၂) တွင် ဖော်ပြထားပါသည်။<br>- ပြည်ထဲရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း၏မြေနေရာအား လုပ်ထုံးလုပ်နည်းနှင့်အညီ ညီညွတ်ခြင်း ရှိ-မရှိ စိစစ်ချက်မှာ မြေငှားရမ်းခြင်းကိစ္စအား ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူဆောင်ရွက်ရန် လိုအပ်ပါကြောင်း ပြန်ကြားထားပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၄/မ-၁၅၂၀/၂၀၁၆(၂၉၅-က)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Jade Marina Resort Hotel Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေဧရိယာ (၆.၆၀)ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး မှတစ်ဆင့် အဆိုပြုချက်တင်ပြခြင်းကိစ္စ**

၁။ Jade Marina Resort Hotel Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေဧရိယာ (၆.၆၀)ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မြင့်မြတ်သူမှ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆)(၂၅-၁-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် Jade Marina Resort Hotel Co., Ltd.(Kyauk Seinn Nagar(Gems) Co., Ltd.) တို့အကြား B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)အား ပူးတွဲ တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်းအား ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေဧရိယာ (၆.၆၀)ဧကပေါ်တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ် မြေငှားရမ်းခအား တစ်နှစ်လျှင် မြန်မာငွေ ကျပ် ၃၃၀ သိန်း နှင့် US$ ၁၆၅၀၀ (၂)မျိုးလုံးဖြင့် ပေးသွင်းမည်ဖြစ်ပါသည်။

၄။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းကာလမှာ ကနဦး နှစ်(၅၀)နှင့် နောက်ထပ် (၁၀) နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ (၂)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၈၇)ဦးနှင့် ပြည်ပ ဝန်ထမ်း (၁)ဦး စုစုပေါင်း (၈၈)ဦး ခန့်ထားမည်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလပြီးဆုံးချိန်တွင်လည်း ပြည်ပ ဝန်ထမ်းအား ဆက်လက်ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပြီး၊ ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၇၁၆၉.၀၀ သန်း ဖြစ်ပါသည်။ ဤအဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်လုပ်ငန်းသုံး ပစ္စည်းများနှင့် စက်ပစ္စည်း ကိရိယာများကို ပြည်တွင်းမှသာ ဝယ်ယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | မူလ ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း)(PHASE 1) | ထပ်မံတိုးချဲ့မည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း) (PHASE 2) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ပမာဏ ကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၂၀၂.၄၉ | ၈၀၀.၀၀ | ၁၀၀၂.၄၉ |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုး | ၉၂.၂၀ | ၉၇.၇၂ | ၁၈၉.၉၂ |
| (ဂ) | အဆောက်အဦ/ မြေတန်ဖိုး | ၄၆၂၅.၀၂ | ၄၈၀.၂၃ | ၅၁၀၆.၂၅ |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ တန်ဖိုး | ၁၆၃.၀၃ | ၈၇.၅၁ | ၂၅၀.၅၄ |
| (င) | လုပ်ငန်းသုံးမော်တော်ယာဉ် ပစ္စည်းများ တန်ဖိုး | ၁၈၀.၀၀ | ၂၆၅.၀၀ | ၄၄၅.၀၀ |
| (စ) | ထောက်ပံ့ပစ္စည်းများ တန်ဖိုး | ၁၆၄.၈၀ | - | ၁၆၄.၈၀ |
| | စုစုပေါင်း | ၅၄၃၇.၅၄ | ၁၇၃၀.၄၆ | ၇၁၆၉.၀၀ |

၇။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှုပေးမည့် ဧရိယာ အမျိုးအစား | အခန်း အရေအတွက် | Occupancy Rate (%) | ဝန်ဆောင်ခ (တစ်နေ့/တစ်ခန်းလျှင်) US$ |
|---|---|---|---|---|
| (က) | Beach Front Villa | ၈ | ၅၀ | ၂၀၀ |
| (ခ) | Sea View Villa | ၁၂ | ၅၀ | ၁၇၀ |
| (ဂ) | Corner Suite | ၄ | ၅၅ | ၁၅၀ |
| (ဃ) | Deluxe | ၆၄ | ၇၀ | ၁၀၀ |
| | စုစုပေါင်း | ၈၈ | | |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၃၂၀.၉၈ |
| (ခ) | အသုံးစရိတ် | ၁၅၆၂.၆၆ |
| (ဂ) | အသားတင်အမြတ် | ၇၅၈.၃၂ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၉၁.၄၆ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၁၆.၀၅ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၉ နှစ် ၆ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၃.၃၁ % ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ တစ်ဖက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရခိုင်ပြည်နယ်အစိုးရအဖွဲ့** **နောက်ဆက်တွဲ-က**

ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေဧရိယာ (၆.၆၀)ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Jade Marina Resort Hotel Co., Ltd. မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြား အပ်ပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ**

(၁) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်းအသုံးပြု ဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility - CSR)အတွက် အမြတ်ငွေ(၁%) ထည့်ဝင်အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

(၂) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာအား ရေးဆွဲတင်ပြ၍ အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်နေ့ ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန** **နောက်ဆက်တွဲ-ဂ**

(၁) အဆိုပါ Jade Marina Resort Hotel Co., Ltd. မှ ငပလီကမ်းခြေတွင် အခန်း (၄၀)ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုလိုင်စင်အမှတ် (ဟ-၀၇၅၁) ဖြင့် ဟိုတယ်လုပ်ငန်းများကို (၂၉-၄-၂၀၁၃) ရက်နေ့မှ

စတင်၍ ဆောင်ရွက်လျက်ရှိသည့်အပြင် ငပလီကမ်းခြေကို အဆင့်မြင့်ခရီးသွား လုပ်ငန်းဖွံ့ဖြိုးရေးဇုန်တစ်ခုအဖြစ် ဖော်ထုတ်ရန်ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများ လိုအပ်ခြင်းနှင့် ယင်းဟိုတယ်မှာလည်း အခန်း(၄၀)ခန်း ဖွင့်လှစ်ပြီး (၄၈)ခန်းအား ထပ်မံတိုးချဲ့ဖွင့်လှစ်ရန် ဆောင်ရွက်နေသော ဟိုတယ်ဖြစ်ပြီး ယခုအခါတွင် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တင်ပြဆောင်ရွက်ခြင်း ဖြစ်သဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း။

(၂) ကမ်းခြေဒေသတွင် တည်ဆောက်မည်ဖြစ်၍ စနစ်တကျ ကြီးကြပ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်သဖြင့် အခန်း(၄၈)ခန်းအား တိုးချဲ့ရန်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ရခိုင်ပြည်နယ် အစိုးရအဖွဲ့ နှင့် ရခိုင်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့ တို့၏ ခွင့်ပြုချက်များ တင်ပြဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း။

(၃) Jade Marina Resort Hotel Co., Ltd. မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Beach Front Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၂၀၀၊ Sea View Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၁၇၀၊ Corner Suite (၁)ခန်းလျှင် အမေရိကန် ဒေါ်လာ ၁၅၀၊Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၁၀၀ စသည်ဖြင့် နှုန်းများ ဖော်ပြထားသဖြင့် ငှားရမ်းခနှုန်းထားများ နှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ကြောင်း။

(၄) ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန မှ ၁-၁-၂၀၁၅ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန် အချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း နှင့် အထူးသဖြင့် သတ်မှတ်အမြင့်ပေထက် ပို၍ထပ်ခိုးတင်ခြင်း၊ အမိုး ထပ်တင်ခြင်းများ၊ တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအား မပြုလုပ်ရန် လိုအပ်ပါကြောင်း။

(၅) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်း ဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန် နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှုစနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ကြောင်း တင်ပြအပ်ပါကြောင်း။

၁၁။ ငွေကြေး အထောက်အထားအဖြစ် Jade Marina Resort Hotel Co., Ltd. ၏ အမည်ဖြင့် CB ဘဏ်တွင် (၁၇-၁၁-၂၀၁၅) နေ့ ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၃၀,၁၀၀,၀၂၅.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ Jade Marina Resort Hotel Co., Ltd. မှ လုပ်ငန်းဆောင်ရွက်ရာတွင် ရေသုံးစွဲမှုအတွက် ဆည်မြောင်းဦးစီးဌာနမှ ပေးဝေသောရေများကို ပိုက်များနှင့် သွယ်တန်း၍ ရေလှောင်ကန်ဖြင့် သိုလှောင်ထားပြီး အသုံးပြုမည်ဖြစ်ပါကြောင်း နှင့် လျှပ်စစ်ဓာတ်အားများ သုံးစွဲမှုအတွက် ပုံမှန်လျှပ်စစ်ဓါတ်အားကို သုံးစွဲမည်ဖြစ်ပြီး ပုံမှန်လျှပ်စစ်ဓါတ်အားရရှိမှု မလုံလောက်ပါက ကိုယ်ပိုင်မီးစက် Generators(410 KVA (2)၊ 200 KVA၊ 130 KVA၊ 44 KVA)အမျိုးအစား (၅)လုံးဖြင့် လုပ်ငန်းလည်ပတ်သွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ အဆိုပြု လုပ်ငန်းသည် မြန်မာနိုင်ငံသား ၁၀၀% ရင်းနှီးမြှုပ်နှံသောကုမ္ပဏီဖြစ်ပါကြောင်းနှင့် ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ မီးဘေး ကြိုတင် ကာကွယ်ရေးစီမံချက် နှင့် လုပ်ငန်းခွင်သာယာရေး နှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက် အစီအစဉ်တို့အား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်ငွေ ၁%အား လူမှုရေးဆိုင်ရာတာဝန်ယူမှု(CSR)အဖြစ် သုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပြည်တွင်း/ပြည်ပ အတတ်ပညာရှင်များ၊ ရုံးဝန်ထမ်းများ၊ ဟိုတယ်အလုပ်သမားများ ခန့်အပ်၍ နိုင်ငံတကာ အဆင့်မီ ဟိုတယ်စီမံကိန်းလုပ်ငန်းအား ဆောင်ရွက်သွားမည်ဖြစ်သောကြောင့် အဆိုပါဝန်ထမ်းများ၏ လုပ်ခလစာနှင့်ပတ်သက်၍ လက်ရှိနိုင်ငံတော်မှ ချမှတ်ထားသော ဝင်ငွေခွန်ဥပဒေနှင့်အညီ ဝင်ငွေခွန်များကို ပေးဆောင်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ဂ၊စ၊ဆ၊ဇ၊ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက် -**

(က) အဆိုပြုလုပ်ငန်းတွင် Deluxe (၁၆) ခန်းပါဝင်သော နှစ်ထပ်အဆောက်အဦ (၃) လုံး အား ထပ်မံတိုးချဲ့ ဆောက်လုပ်သွားမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ လက်ရှိအခန်းအရေအတွက်နှင့် ထပ်မံတိုးချဲ့မည့်အခန်းအရေအတွက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | လက်ရှိအခန်း | ပထမအကြိမ် တိုးချဲ့မည့်အခန်း (၂နှစ် ၁ကြိမ်) | ဒုတိယအကြိမ် တိုးချဲ့မည့်အခန်း (၂နှစ် ၁ကြိမ်) | တတိယအကြိမ် တိုးချဲ့မည့်အခန်း (၂နှစ် ၁ကြိမ်) | စုစုပေါင်း အခန်း |
|---|---|---|---|---|---|---|
| ၁။ | Beach Front Villa | ၈ | - | - | - | ၈ |
| ၂။ | Sea View Villa | ၁၂ | - | - | - | ၁၂ |
| ၃။ | Corner Suite | ၄ | - | - | - | ၄ |
| ၄။ | Deluxe | ၁၆ | ၁၆ | ၁၆ | ၁၆ | ၆၄ |
| | စုစုပေါင်း | ၄၀ | | | | ၈၈ |

(ခ ) လုပ်ငန်းဆောင်ရွက်မည့်မြေမှာ မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့် ရရှိထားသည့်အပြင် ကာကွယ်ရေးဝန်ကြီးဌာနပိုင် အမည်ပေါက်ရရှိထားပြီး ဖြစ်ပါသည်။

(ဂ) B.O.T စနစ်ဖြင့် ကာကွယ်ရေးဝန်ကြီးဌာန နှင့် မြေငှားရမ်းခြင်း စာချုပ် ချုပ်ဆိုမည့် ကုမ္ပဏီမှာ Jade Marina Resort Hotel Co., Ltd. (Kyauk Seinn Nagar(Gems) Co., Ltd.) အမည်နှစ်မျိုးလုံးဖြင့် စာချုပ် ချုပ်ဆိုမည် ဖြစ်ပါသည်။

(ဃ) Jade Marina Resort Hotel Co., Ltd. နှင့် Kyauk Seinn Nagar(Gems) Co., Ltd. ကုမ္ပဏီတို့မှာ အတူတူဖြစ်ပါကြောင်း၊ ပြဿနာတစ်စုံတစ်ရာပေါ်ပေါက်လာပါက တာဝန်ယူဖြေရှင်းသွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။

(င) Jade Marina Resort Hotel Co., Ltd. တွင် ဒါရိုက်တာ (၅)ဦးဖြင့် ဖွဲ့စည်းထားပြီး Kyauk Seinn Nagar(Gems) Co., Ltd. တွင် ဒါရိုက်တာ (၁၁)ဦးဖြင့် ဖွဲ့စည်းထား ပါသည်။

(စ) Kyauk Seinn Nagar(Gems) Co., Ltd. တွင် ပါဝင်သည့် ဒါရိုက်တာ (၁၁)ဦးအနက် (၅)ဦးမှာ Jade Marina Resort Hotel Co., Ltd. တွင် ပါဝင်သော ဒါရိုက်တာများ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဆ) ၂၀၀၇ ခုနှစ် စက်တင်ဘာလ ၉ ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလ စာချုပ်အား ပယ်ဖျက်၍ ယခုချုပ်ဆိုမည့် သဘောတူ စာချုပ်အား အစားထိုး ချုပ်ဆိုမည်ဖြစ်ကြောင်း မြေငှားစာချုပ်(မူကြမ်း) အပိုဒ် (၂၂)တွင် ဖော်ပြထားပါသည်။

(ဇ) ပြည်ထဲရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း၏မြေနေရာအား လုပ်ထုံးလုပ်နည်းနှင့်အညီ ညီညွတ်ခြင်း ရှိ-မရှိ စိစစ်ချက်မှာ မြေငှားရမ်းခြင်းကိစ္စအား ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ရယူဆောင်ရွက်ရန် လိုအပ်ပါကြောင်း ပြန်ကြားထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Jade Marina Resort Hotel Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေဧရိယာ (၆.၆၀)ဧက ပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေဖြစ်သည့် ငီးဖြူကုန်းမြေ ၃၅. ၅၃ ဧကရွှေဝါချိုင်ဟိုကယ်မြေ ၆၃. ၀၅ ဧက
မွေးရေဝါမြို့တိုက် ၄. ၄၃ ဧကပေါ်ရှိ ကုမ္ပဏီ ၉ ခုမှဟိုတယ်များတည်နေရာပြမြေပုံ




ရည်ညွှန်းချက်

- မင်းဇာနည်ကုမ္ပဏီလီမိတက် ၆. ၆၁ ဧက
- ဒေါင်အုပ်စုကုမ္ပဏီလီမိတက် ၆. ၆၁ ဧက
- ဖော်ကျွန်းအင်တာနေရှင်နယ်ကုမ္ပဏီလီမိတက် ၆. ၆၅ ဧက
- မက်စ်မြန်မာဟိုတယ်ကုမ္ပဏီလီမိတက် ၁၀. ၃၀ ဧက
- အမေးဇင်ကုမ္ပဏီလီမိတက် ၄. ၄၃ ဧက
- ပုဂံ-သံတဲဟိုတယ်အုပ်စုကုမ္ပဏီလီမိတက် ၅. ၂၀ ဧက
- ကျောက်စိမ်းနဂါးကုမ္ပဏီလီမိတက် ၆. ၆၀ ဧက
- ထူးထရိတ်ဒင်းကုမ္ပဏီလီမိတက် ၅. ၅၄ ဧက
- ကပ်ပါးကုမ္ပဏီလီမိတက် ၄. ၄၃ ဧက

**နောက်ဆက်တွဲ(က)**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

ရခိုင်ပြည်နယ်

စာအမှတ်၊(၀၉၅)/ ၄/၇-၄(စီးပွား)/ အဖရ(ရခိုင်)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးနိုင်ပါရန် တောင်းခံလာခြင်း ကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၊(၂၂-၁-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရကက-၄/မ-၁၅၂၀/၂၀၁၆(၁၀၈)

ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂၀၁၆/၁၀၇) ရှိ မြေ(၆.၆၀) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Jade Marina Resort Hotel Co., Ltd မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(မြအောင်)

ဒေသနပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၃၀/၁၆)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

M3-294
16/2

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Jade Marina Resort Hotle Co.,Ltd မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၂၀/၂၀၁၆(၁၀၂)

၁။ Jade Marina Resort Hotle Co.,Ltd မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြို့ပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်( ၁/ ၂/ ၁၀၆/ ၁၀၇ )ရှိ မြေ ၆.၆၀ ဧကပေါ်တွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ ဝန်ဆောင်မှုပေးမည့်အခန်းအမျိုးအစားများမှာ Beach Front Villa(၈)ခန်း၊ Sea View Villa(၁၂)ခန်း၊ Corner Suit (၄)ခန်းနှင့် Deluxe (၆၄)ခန်းတို့ဖြစ်ပြီး စုစုပေါင်း(၈၈)ခန်း ပါဝင်ကြောင်း၊ မီးဘေးကြို တင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်း သက်သာချောင်ချိရေးစီမံချက် များအား ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင် အမြတ်ငွေ၏(၁%)ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR )လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဟိုတယ်လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်အမှိုက်များအား သက်ဆိုင်ရာ စည်ပင်သာယာရေးကော်မတီမှ ချမှတ်ထားသော စည်းမျဉ်းစည်း

ကမ်းများအတိုင်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ရေထုနှင့်လေထုညစ်ညမ်းမှု မဖြစ်ပေါ်အောင်တတ်နိုင်သမျှစီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ လမ်းညွှန်ချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Jade Marina Resort Hotle Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများအတွက် ဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် မြေသားပြုပြင်ဖော်ထုတ်ရာမှထွက်ရှိလာမည့် အမှုန်အမွှားများမှ လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းသုံးစက်နှင့်ယာဉ်ယန္တရားများ၏ ဆူညံသံကြောင့် အသံညစ်ညမ်းခြင်းနှင့်စက်သုံးဆီ၊ အင်ဂျင်ဝိုင်၊ အမဲဆီစသော စွန့်ပစ်ပစ္စည်းများကြောင့် မြေထုညစ်ညမ်းခြင်း၊ အလုပ်သမားများမှ စွန့်ပစ်ပစ္စည်း၊ အရည်အစိုင်အခဲများ စွန့်ပစ်ခြင်းနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထု၊ လေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Jade Marina Resort Hotle Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်းအသုံးပြုဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility-CSR )အတွက် အမြတ်ငွေ(၁%)ကို ထည့်ဝင်အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှု အစီ

စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီးရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၀၃၁၃
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၃ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရကာ - ၄/မ-၁၅၂၀/၂၀၁၆ (၁၀၇)

၁။ Jade Marina Resort Hotel Co., Ltd မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊မြေကွက်အမှတ်(၁/၂/၁၀၆/၁၀၇)ရှိ မြေ (၆.၆၀) ဧကပေါ်တွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်ဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဒေါ်မြင့်မြတ်သူမှ ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း) စစ်ထောက်ချုပ်ရုံးမှတဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါ သည်။

၂။ အဆိုပါ Jade Marina Resort Hotel Co., Ltd မှ ငပလီကမ်းခြေတွင် အခန်း (၄၀) ခန်းပါဟိုတယ်အားဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုလိုင်စင်အမှတ်(ဟ-၀၇၅၁)ဖြင့်ဟိုတယ်လုပ်ငန်းများကို(၂၉-၄-၂၀၁၃)ရက်နေ့မှစတင်၍ဆောင်ရွက်လျှက်ရှိသည့်အပြင်ငပလီကမ်းခြေကိုအဆင့်မြင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေးဇုန်တစ်ခုအဖြစ် ဖော်ထုတ်ရန်ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ကမ္ဘာလှည့်ခရီးသည်ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများ လိုအပ်ခြင်းနှင့်ယင်းဟိုတယ်မှာလည်းအခန်း(၄၀)ခန်းဖွင့်လှစ်ပြီး(၄၈)ခန်းအား ထပ်မံတိုးချဲ့ဖွင့်လှစ်ရန်ဆောင်ရွက်နေသောဟိုတယ်ဖြစ်ပြီးယခုအခါတွင်ကာကွယ်ရေးဝန်ကြီးဌာနစစ်ထောက်ချုပ်ရုံးမှတဆင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီတင်ပြဆောင်ရွက်ခြင်းဖြစ်သဖြင့် ကန့်ကွက်ရန်မရှိပါ။

၃။ ကမ်းခြေဒေသတွင်တည်ဆောက်မည်ဖြစ်၍ စနစ်တကျ ကြီးကြပ်ဆောင်ရွက်သွားရန်လိုအပ်မည်ဖြစ်သဖြင့်အခန်း(၄၈)ခန်းအားတိုးချဲ့ရန်နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် ရခိုင်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့တို့၏ ခွင့်ပြုချက်များတင်ပြဆောင်ရွက်သွားရန် လိုအပ်ပါသည်။

၄။ Jade Marina Resort Hotel Co., Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Beach Front Villa (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ (၂၀၀)၊ Sea View Villa (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၇၀)၊Corner Suite (၁) ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၅၀)၊ Deluxe(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၀၀)စသည်ဖြင့်နှုန်းများဖော်ပြထားသဖြင့်ငှားရမ်းခနှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၅။ ဟိုတယ်တည်ဆောက်ရေးအတွက်ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ ၁-၁-၂၀၁၅ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များနှင့်အညီ လိုက်နာဆောင်သွားရန် လိုအပ်ပါသည်။အထူးသဖြင့်သတ်မှတ်အမြင့်ပေထက်ပို၍ထပ်ခိုးတင်ခြင်း၊အမိုးထပ်တင်ခြင်းများ၊တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအား မပြုလုပ်ရန်လိုအပ်ပါသည်။

၆။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောက်မှုလုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးနှင့်ပတ်သက်ပြီးရေဆိုး၊အမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအားစနစ်တကျ စီမံဆောင်ရွက်ထားရန်လိုအပ်ကြောင်း တင်ပြအပ်ပါသည်။

၃.၂.၂၀၁၆

(ဦးဌေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ၊ မျှော

**JADE MARINA RESORT HOTEL CO.,LTD.**

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1- 660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၄)ရက်။

အကြောင်းအရာ။ **။ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားပြန်ကြားချက်များအား လိုက်နာဆောင်ရွက်မည်ဟုတင်ပြခြင်း။**

ရည်ညွှန်းချက်။ **။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏( ၁၉ -၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရကာ- ၄/ မ-၁၅၂၀ / ၂၀၁၆ (၂၅၉)။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်"** "JADE MARINA RESORT HOTEL CO., LTD." သည် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) ရှိ ဧရိယာ (၆.၆၀ ဧက) အကျယ်အဝန်းမြေကွက်ပေါ်တွင် "ဟိုတယ်လုပ်ငန်း" ကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းချက်ပါစာအရ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားပြန်ကြားချက်များအတိုင်း ဆောင်ရွက်မည့်လုပ်ငန်းအတွက် **ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan – EMP) အားရေးဆွဲပြီး ၂၀၁၆ခုနှစ် မေလကုန်နောက်ဆုံးထားကာ တင်ပြပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ သို့ဖြစ်ပါ၍ ကျွန်မတို့ကုမ္ပဏီနှင့်အတူ ပူးပေါင်းဆောင်ရွက်ပေးခြင်းကို ကျေးဇူးအထူးပင်တင်ရှိပြီး ကျွန်မတို့ **"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်"** "JADE MARINA RESORT HOTEL CO., LTD." ၏ ဆောင်ရွက်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့် Permit ကို ဆောလျှင်စွာခွင့်ပြုပေးပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**ဒေါ်မြင့်မြတ်သူ**
**မန်နေးဂျင်းဒါရိုက်တာ**
ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း
မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ဟိုတယ်လုပ်ငန်း
ဆောင်ရွက်ရန်အတွက်

ရင်းနှီးမြှုပ်နှံလိုသူ၏
လုပ်ငန်းအဆိုပြုချက်

"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်"

# မာတိကာ

၁၉။ ရင်းနှီးမြှုပ်နှံမှုပေါ်မှ ရရှိလာမည့် အကျိုးအမြတ် နှင့် အသားတင်တန်ဖိုး တင်ပြချက်(နောက်ဆက်တွဲဇယား - ၁၃)

၂၀။ လုပ်ငန်းလည်ပတ်ရန် လိုအပ်သော ရင်းနှီးမြှုပ်နှံမှု နှင့် ငွေသားစီးဆင်းမှုအခြေအနေ။

၂၁။ နိုင်ငံတော်အားထည့်ဝင်မည့် အခွန်ပြဇယား ။

၂၂။ လုပ်ငန်းသဘောသဘာဝ တင်ပြခြင်း။

၂၃။ ရေ နှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့်အစီအစဉ် တင်ပြခြင်း။

၂၄။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် တင်ပြခြင်း။

၂၅။ အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ တင်ပြခြင်း။

၂၆။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်အား တင်ပြခြင်း။

၂၇။ ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း။

၂၈။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်အား တင်ပြခြင်း။

၂၉။ ကျောက်စိမ်းနဂါး(ကျောက်မျက်ရတနာ) ကုမ္ပဏီလီမိတက်၏ မြေနှင့်စပ်လျဉ်း၍ ကတိဝန်ခံချက်။(မူရင်း)

၃၀။ မြေငှားရမ်းခြင်းအတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် ချုပ်ဆိုထားသော (မူလ) စာချုပ်။

၃၁။ ငှားရမ်းမည့်မြေအား စစ်ထောက်ချုပ်ရုံး၏ပြန်ကြားစာနှင့် ပတ်သက်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်။

၃၂။ ငှားရမ်းမည့်မြေအတွက် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်အားဖြင့် ပြင်ဆင်ထားသောစာချုပ်(မူကြမ်း)။

၃၃။ ငှားရမ်းမည့်မြေ၏ မြေစာရင်းပုံစံ -၁၀၅။

၃၄။ အဆိုပြုလွှာတင်ပြခြင်းနှင့်စပ်လျဉ်း၍ စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တို့၏ အကြောင်းကြားစာများ။

၃၅။ ဟိုတယ် အဆောက်အဦများ နှင့် အခန်း ဓါတ်ပုံများ။

၃၆။ ဝယ်ယူပြီးပစ္စည်းများ၏ အထောက်အထားများ။

၃၇။ နိုင်ငံသားစီစစ်ရေးကဒ်များ (မိတ္တူ)

၃၈။ ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်၏ မှတ်ပုံတင် (မိတ္တူ)

၃၉။ ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်၏ ပုံစံ(၆)၊ အစုရှယ်ယာလွှဲပြောင်းခြင်းပုံစံများ နှင့် ပုံစံ (၂၆) (မိတ္တူ)

၄၀။ ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်၏ နောက်ဆုံး ပုံစံ(င) (မိတ္တူ)

၄၁။ ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်၏ ဟိုတယ်လုပ်ငန်းလိုင်စင်။

၄၂။ ငွေကြေးအထောက်အထားများ (မိတ္တူ)

၄၃။ သင်းဖွဲ့မှတ်တမ်း သင်းဖွဲ့စည်းမျဉ်း (မိတ္တူ)

၄၄။ တိုးချဲ့ဆောက်လုပ်မည့် အဆောက်အဦ၏ Site Plan ပုံစံများ၊ Layout Plan များနှင့် BQ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အဆိုပြုချက် ပြင်ဆင်ပေးပို့ တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-ထွေ/ ၂၀၁၅(၉၃၄)

၁။ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ကွင်းအမှတ်(၄၀)၊မြေကွက်အမှတ်(၁/၂/ ၁၀၆/၁၀၇)၊ ပေလီကမ်းခြေရှိမြေ ၆.၆၀ ဧကတွင် Kyauk Seinn Nagar(Gems) Co., Ltd., သည် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်အား ပြန်လည်ပြင်ဆင်ပေးပို့ရန် အကြောင်းကြား လာခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏အဆိုပြုချက်များအားပြင်ဆင်ဖြည့်စွက်ပြီးအောက်ပါအတိုင်း ဆောင်ရွက်မည် ဖြစ်ပါသည်-

(က) Jade Marina Resort Hotel Co., Ltd., (Kyauk Seinn Nagar(Gems) Co., Ltd.,) အမည်ဖြင့် ဆောင်ရွက်ခြင်း။

(ခ) လုပ်ငန်းအသစ်နှင့်လုပ်ငန်းအဟောင်းခွဲခြား၍ မူလလုပ်ငန်း၊တိုးချဲ့လုပ်ငန်းအပိုင်းလိုက်ဖြင့် ပြန်လည်တင်ပြခြင်း။

(ဂ) လုပ်ငန်းဆောင်ရွက်မည့် တည်နေရာ အထောက်အထားများအား ပြုစုတင်ပြခြင်း။

၃။ အထက်ပါအတိုင်းပြင်ဆင်ပြုစုပြီးဖြစ်ပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

စစ်ထောက်ချုပ် (ကိုယ်စား)

မိတ္တူကို
Kyauk Seinn Nagar(Gems) Co., Ltd., (Jade Marina Resort Hotel Co.,)

# JADE MARINA RESORT HOTEL CO.,LTD.

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1- 660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၂ )ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လိုအပ်သော စာရွက်စာတမ်းများပြန်လည် တင်ပြခြင်း။**

ရည်ညွှန်းချက်။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရကာ- ၄/ မ-၁၅၂၀ / ၂၀၁၆ (၀၄၀)။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်"** **"JADE MARINA RESORT HOTEL CO., LTD."** သည် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) ရှိ ဧရိယာ (၆.၆၀ ဧက) အကျယ်အဝန်းမြေကွက်ပေါ်တွင် "ဟိုတယ်လုပ်ငန်း" ကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ ဇန်နဝါရီလ (၂၅) ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ဆေးရေးအဖွဲ့၏ (၄/၂၀၁၆) ကြိမ်မြောက်အစည်းအဝေး ဆွေးနွေးချက်များနှင့် ရည်ညွှန်းချက်ပါစာတွင်ဖော်ပြချက်များအရ ညွှန်ကြားသောလိုအပ်ချက်များအားပြင်ဆင်ပြီး အောက်ပါ စာရွက်စာတမ်းများအား ပေးပို့တင်ပြအပ်ပါသည်။

(က) "ဟိုတယ်လုပ်ငန်း" ဆောင်ရွက်မည့် ကုမ္ပဏီအမည် ပြင်ဆင်ထားသည့် (B.O.T) စနစ်ဖြင့် ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)။

(ခ) တွက်ချက်မှုအပိုင်းတွင် နိုင်ငံခြားသားဦးရေတိုးမြှင့်ခြင်းနှင့် အခြားလိုအပ်သော စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ။

# JADE MARINA RESORT HOTEL CO.,LTD.

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1- 660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm


၃။ သို့ဖြစ်ပါ၍ ကျွန်မတို့ကုမ္ပဏီနှင့်အတူ ပူးပေါင်းဆောင်ရွက်ပေးခြင်းကို ကျေးဇူးအထူးပင်တင်ရှိပြီး ကျွန်မတို့ **"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်"** **"JADE MARINA RESORT HOTEL CO., LTD."** ၏ ဆောင်ရွက်မှုလုပ်ငန်းများအား ဆောင်ရွက်ခွင့် Permit ကို ဆောလျှင်စွာခွင့်ပြုပေးပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

myintmyat

**ဒေါ်မြင့်မြတ်သူ**
**မန်နေးဂျင်းဒါရိုက်တာ**
**ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်**

# JADE MARINA RESORT HOTEL CO.,LTD.

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1- 660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ (၁၄)ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

အထက်ပါကြောင်းအရာနှင့်ပတ်သက်၍ ကျွန်မတို့၏ "**ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်**" "JADE MARINA RESORT HOTEL CO., LTD." သည် ဇန်နဝါရီ လ၊ (၁၄) ရက်၊ ၂၀၁၆-ခုနှစ်တွင် "**ဟိုတယ်လုပ်ငန်း**" လုပ်ကိုင်ရန်ရည်ရွယ်ချက်ဖြင့် မြန်မာနိုင်ငံသား ၁၀၀ % ရင်းနှီးမြှုပ်နှံမှုကုမ္ပဏီအနေဖြင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ကို တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) ရှိ ဧရိယာ (၆.၆၀ ဧက) အကျယ်အဝန်းမြေကွက်ပေါ်တွင် "ဟိုတယ်လုပ်ငန်း" ကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။

ကျွန်မတို့ ကုမ္ပဏီအနေဖြင့် ဟိုတယ်လုပ်ငန်းအား ပြင်ဆင်ပြီး ဟိုတယ်အခန်း (၄၀) ဖြင့် စတင်လည်ပတ်နေပြီး ယခုအခါ ဟိုတယ်အခန်း (၄၈) ခန်းထပ်မံ တိုးချဲ့၍ စုစုပေါင်း အခန်း (၈၈) ခန်းဖြင့် လည်ပတ်ရန်ရည်ရွယ်လျက် အဆိုပြုလွှာ တင်ပြခြင်းဖြစ်ပါသည်။ ထိုသို့ ထပ်မံတိုးချဲ့ ဆောင်ရွက်ရာတွင် ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ်ငွေ သန်းပေါင်း (၇,၁၆၉) ခန့်အား (၆) နှစ်ကာလအတွင်း ရင်းနှီးမြှုပ်နှံကာ ဆောင်ရွက်မည်ဖြစ်ပါသဖြင့် ခွင့်ပြုချက်ပေးနိုင်ပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

**ဒေါ်မြင့်မြတ်သူ**
**မန်နေးဂျင်းဒါရိုက်တာ**
**ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်**

**JADE MARINA RESORT HOTEL CO.,LTD.**

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1-660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အမှတ် (၁) ၊သစ္စာလမ်း ၊ ရန်ကင်းမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး။

နေ့စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ (၁၄)ရက်။

အကြောင်းအရာ။ **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ-၂၀ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

လေးစားရပါသောလူကြီးမင်းရှင့် ။ ။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **"ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်" "JADE MARINA RESORT HOTEL CO., LTD."** သည် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇) ရှိ ဧရိယာ (၆.၆၀ ဧက) အကျယ်အဝန်းမြေကွက်ပေါ်တွင် "ဟိုတယ်လုပ်ငန်း" ကို ဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာပေးပို့ တင်ပြလျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်မတို့၏ကုမ္ပဏီသည် **"ဟိုတယ်လုပ်ငန်း"** လုပ်ကိုင်ရန်အတွက် မတည်ရင်းနှီးငွေကို မြန်မာကျပ်ငွေ (၁၀,၀၀၀,၀၀၀,၀၀၀.၀၀) ထားရှိကာ ကနဦးရင်းနှီးမြှုပ်နှံခြင်း မြန်မာကျပ်ငွေ (၇,၁၆၉,၀၀၀,၀၀၀.၀၀) တွင် အဆောက်အဦတန်ဖိုး၊ စက်ပစ္စည်းတန်ဖိုး၊ ပရိဘောဂတန်ဖိုး၊ မော်တော်ယာဉ်တန်ဖိုး နှင့် လိုအပ်သော အထောက်အပံ့ ပစ္စည်းများတန်ဖိုးအပြင် ငွေကြေးအားဖြင့် ရင်းနှီးမြှုပ်နှံမှုများလည်း ပါဝင်ပါသည်။ ရင်းနှီးမြှုပ်နှံရန်အတွက် ပစ္စည်းများထပ်မံ၍ လိုအပ်ပါကလည်း ခွင့်ပြုမိန့်ထပ်မံတောင်းခံ၍ တင်သွင်းမည် ဖြစ်ပါသည်။

၃။ ကျွန်မတို့၏ ဟိုတယ်လုပ်ငန်းအတွက် လိုအပ်သောဝန်ထမ်းများကို ပြည်တွင်း/ပြည်ပရှိ အတတ်ပညာရှင်များကို အသုံးပြုပြီး နိုင်ငံတကာအဆင့်မီ ဟိုတယ်စီမံကိန်းလုပ်ငန်းအား ပြုလုပ်မည် ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း မြန်မာနိုင်ငံ၏ ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း တိုးတက်စေရန်အတွက်လည်းကောင်း ကျွန်မတို့ကုမ္ပဏီ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စု

# JADE MARINA RESORT HOTEL CO.,LTD.

OFFICE : NO. 39 (A) , 7½Miles , PYAY ROAD,
MAYANGONE TOWNSHIP, YANGON, MYANMAR.
☎ : 95-1- 660312, 95-1-652662 / Fax : 95-1-652793
E-mail : ruby_dragon@mptmail.net.mm
rbdragon@myanmar.com.mm


သမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀) တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင် ဟိုတယ်လုပ်ငန်းမှ ရရှိလာသော ပထမ(၅)နှစ်အတွက် ကုန်သွယ်လုပ်ငန်းခွန် နှင့် ဝင်ငွေခွန် အပါအဝင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ(၂၀)အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား ခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ် ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်များကို ပူးတွဲတင်ပြအပ်ပါသည်။

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃) ကုမ္ပဏီသင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

(၄) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ

(၅) နိုင်ငံတော်မှရရှိမည့်ဘဏ္ဍာရေးအကျိုးအမြတ်တွက်ချက်မှုဇယား

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

ဒေါ်မြင့်မြတ်သူ
မန်နေးဂျင်းဒါရိုက်တာ
ဂျိတ် မရီနာ ရီဆော့(တ်) ဟိုတယ် ကုမ္ပဏီ လီမိတက်

၇။ **အငှားချထားသူ၏တာဝန်များ** ။ အငှားချထားသူသည် ငှားရမ်းသည့် မြေခွန်ကို ပေးဆောင်ရမည်။ အငှားချထားသူသည် ဤဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ရရှိရေးအတွက် လိုအပ်သော ခွင့်ပြုချက်များ အငှားချထားခြင်းခံရသူ က ရရှိရေးအတွက် လိုအပ်သောကူညီထောက်ပံ့မှုပေးရမည်။

၈။ **မြေနှင့် အဆောက်အအုံ လွှဲပြောင်းပေးအပ်ခြင်း** ။ ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း၊ သက်တမ်းကုန်ဆုံးပြီးနောက် (၃) လအတွင်း အငှားချထားခြင်းခံရသူက အငှားချထားသည့်မြေနှင့် အဆောက်အအုံများ၊ ၎င်းမြေပေါ်ရှိအငှားချထားခြင်းခံရသူမှ ဆောက်လုပ်ထားသော အဆောက်အအုံနှင့် ပစ္စည်းများအားလုံး အဖိုးစားနားမျှ မပါရှိဘဲ အငှားချထားသူအား ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ပြုရမည်။ သို့ရာတွင် ဟိုတယ်လုပ်ငန်းနှင့် မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့် အဆောက်အအုံတွင် တပ်ဆင်ထားသည့် (Fixture) ပစ္စည်းများမှ အပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများအားလုံးကို အငှားချထားခြင်းခံရသူမှ ယူဆောင်သွားခြင်း ပြုနိုင်သည်။

၉။ **စာချုပ်သက်တမ်းတိုးခြင်း** ။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်း တိုးမြှင့်လိုပါက ကနဦးသက်တမ်း မကုန်ဆုံးမီ အနည်းဆုံး (၃)လ ကြိုတင်၍အငှားချထားသူသို့ စာဖြင့် အကြောင်းကြားတင်ပြရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည်နှစ်ဖက်သဘောတူညီချက်ရရှိပြီး အထက်ဌာနအဖွဲ့အစည်း၏ အတည်ပြုချက် ရရှိမှသာ အတည်ဖြစ်စေရမည်။

၁၀။ **စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်** ။ ဤစာချုပ်သည်အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

၁၁။ **ခုံသမာဓိဖြင့်ဆုံးဖြတ်ခြင်း (အနုညာတစီရင်ခြင်း)** ။ ဤမြေငှားစာချုပ်မှ အငြင်းပွားမှု ပေါ်လာပါက ထိုအငြင်းပွားမှုကို နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ ညှိနှိုင်းဖြေရှင်း မရပါက အနုညာတနည်းဖြင့် အောက်ပါအတိုင်း ဖြေရှင်းကြရမည် -

(က) အနုညာတခုံလူကြီးတစ်ဦးစီကို တစ်ဖက်စီခန့်ထားပြီး ထိုအငြင်းပွားမှုကို ဖြေရှင်းရမည်။

(ခ) အထက်ပါအတိုင်းဖြေရှင်းပါလျက် အငြင်းပွားမှုသည် မပြီးပြတ်ပါက အနုညာတလူကြီး နှစ်ဦးက ခုံသမာဓိလူကြီး (UMPIRE) တစ်ဦးကို ရွေးချယ်ရမည်။ ခုံသမာဓိလူကြီးက အငြင်းပွားမှုကို အဆုံးအဖြတ်ပေးရမည်။

(ဂ) အနုညာတ လူကြီးနှစ်ဦး၏ အဆုံးအဖြတ်သည်လည်းကောင်း ၊ ခုံသမာဓိလူကြီး(UMPIRE) ၏ အဆုံးအဖြတ်သည်လည်းကောင်း အငြင်းပွားမှုနှင့်ပတ်သက်သော စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့အပေါ် အပြီးအပြတ် ဖြစ်စေရမည့်အပြင် နှစ်ဖက်စာချုပ်ဝင်များ အပေါ်၌လည်း အတည်ဖြစ်စေရမည်။

(ဃ) အနုညာတဖြင့်ဆောင်ရွက်ရာတွင် ၁၉၄၄ အနုညာတ အက်ဥပဒေ (၁၉၄၄ ခုနှစ် မြန်မာနိုင်ငံ အက်ဥပဒေအမှတ် -၄) ပြဋ္ဌာန်းချက်နှင့် အညီဆောင်ရွက်ရမည်။

(င) အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံစေရမည်။

၁၂။ **စာချုပ်ရပ်စဲခြင်း** ။ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ဖော်ပြပါ အကြောင်းချင်းရာ တစ်ရပ်ရပ် ဖြစ်ပေါ်လာလျှင် စာချုပ်ကို ရပ်စဲခွင့်ရှိစေရမည် -

(က) ပဋိညာဉ်စာချုပ်၏ တစ်ဖက်ဖက်မှ စာချုပ်ပါအဓိက တာဝန်များကိုဆောင်ရွက်ရန်ပျက်ကွက်ခြင်း။

(ခ) ကြိုတင်၍ မမျှော်မှန်းနိုင်သည့်အပြင် မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်လာခြင်း၊ အဆိုပါ မလွန်ဆန်နိုင်သော ဖြစ်ရပ်သည် (၆)လကာလကြာမြင့်ခြင်း။

(ဂ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း။

(ဃ) နှစ်ဖက်သဘောတူစာချုပ်ရပ်စဲခြင်း။

( င ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရပ်စဲလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် အထက်ဌာနအဖွဲ့ အစည်း၏ ခွင့်ပြုချက်ရရှိပြီး နောက်မှသာ အကျိုးသက်ရောက်မှု ရှိစေရမည်။

( စ ) အထက်ဖော်ပြပါအကြောင်းအရာများကြောင့် စာချုပ်ရပ်စဲသည့်အခါ စာချုပ်ရပ်စဲပြီးနောက် (၃)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိအဆောက်အဦး၊တပ်ဆင်ထားသောပစ္စည်းများ အပါအဝင် အားလုံးတို့ကို အငှားချထားခြင်းခံရသူက အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

၁၃။ **ညှိနှိုင်းဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း** ။ လုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ (သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်စည်းကမ်းများနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်စလုံး လိုအပ်သော ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူ စာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ ပြင်ဆင်ချက်များသည် အထက်ဌာနအဖွဲ့ အစည်း က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

၁၄။ **ဓါတ်သတ္တုအရင်းအမြစ်နှင့်ရတနာများ** ။ စာချုပ်ကာလအတွင်း မမျှော်လင့်ဘဲ ငှားရမ်းထားသော မြေအတွင်းမှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများနှင့် သယံဇာတများကို တွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံတော် အစိုးရ အဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြား တင်ပြပေးရမည်။ ထိုပစ္စည်းများကို သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာ တူးဖော်ရယူခွင့်ရှိစေရမည်။

၁၅။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ** ။ ဤသဘောတူစာချုပ်အရ၏ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ မထမ်းဆောင်နိုင်လျှင် မထမ်းဆောင်နိုင်သူဘက်က အခြားဘက်သို့ (၁၄)ရက်အတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်ကို အသေးစိတ်စာဖြင့် ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို မလွန်ဆန်သောဖြစ်ရပ် ပေါ်ပေါက်နေစဉ် ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ကြန့်ကြာမှုကြောင့် မည်သူ့ထံတွင်မှ တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ လျှင်လူပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ရန်သူ၏လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောက်ယှက်ဖျက်ဆီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မိုးကြီးပစ်ခြင်း၊ မြေငလျင်လူပ်ခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းများ နှင့် ထိုက်သင့်သောဂရုစိုက်မှု၊ ဖွဲ၊ လုံ့လတို့နှင့် ထိန်းချုပ်၍မရဘဲ ကျော်လွန်သွားရန် မတတ်နိုင်စွမ်းသော ဖြစ်ရပ်များကို ဆိုလိုသည်။

၁၆။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း** ။ အငှားချထားခြင်းခံရသူသည် ရေဆိုးများ သန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ လုပ်ထုံးလုပ်နည်းနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၇။ **စာပေးစာယူပြုလုပ်ရန်ကိစ္စ** ။ စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ (သို့မဟုတ်) အင်္ဂလိပ်ဘာသာဖြင့် ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်း ဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေး အကြောင်းကြားရမည် -

(က) **အငှားချထားသူ**

စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန၊ နေပြည်တော်။

( ခ ) အငှားချထားခြင်းခံရသူ
ဦးနေဇင်းဆွေ(ခ)ဦးနေဝင်းထွန်း
အမှတ်-၃၉(အေ)၊ ပြည်လမ်း၊ (၇)မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်
ရန်ကုန်မြို့ ။

၁၈။ အထွေထွေ ။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ ဟိုတယ် အဆောက်အဦပုံစံများ၊ အဆောက်ထားများသည် သဘောတူစာချုပ်၏ အရေးကြီးသော အစိတ်အပိုင်းအဖြစ် ပါဝင်စေရမည်။ အဘောတူစာချုပ်ကို ချုပ်ဆိုကြသည့် ပုဂ္ဂိုလ်များသည် အထက်ဖော်ပြပါရက်တွင် လက်မှတ်ရေးထိုး တံဆိပ်ရိုက်နှိပ်လျက် ချုပ်ဆိုကြသည်။

အငှားချထားသူ(ကိုယ်စား)

ကာကွယ်ရေးဝန်ကြီးဌာန
ဒုတိယစစ်ထောက်ချုပ်
ကြည်း ၁၇၆၄၂ ဗိုလ်မှူးကြီး အောင်ခင်းသိန်း
စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဝန်ကြီးဌာန

အငှားချထားခြင်းခံရသူ

အမည် [illegible]
မှတ်ပုံတင်အမှတ် [illegible]
လိပ်စာ [illegible]

အသိသက်သေများ

လက်မှတ် ..............................
အမည် လက်ထောက်စစ်ထောက်ချုပ်
စစ်ထောက်ချုပ်ရုံး (ထောက်-၄-ဝ/ဆ)
မှတ်ပုံတင်အမှတ် ကြည်း ၁၇၂၉၀ ဒုတိယဗိုလ်မှူးကြီး အောင်ထွေး
လိပ်စာ ..............................

လက်မှတ် ..............................
အမည် [illegible]
မှတ်ပုံတင်အမှတ် [illegible]
လိပ်စာ [illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၂၈ ရက်

သို့

Kyauk Seinn Nagar ( Gems ) Co, Ltd.

အကြောင်းအရာ။ **စာချုပ်မူကြမ်းပြင်ဆင်ပေးပို့နိုင်ရေး**

ရည် ညွှန်း ချက်။ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၂၅-၆-၂၀၁၄ရက်စွဲပါစာအမှတ်၊ ၂(၅)၄-၂၈/နပတ(၅၂၆)

ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်(၁/၂/၁၀/၁၀၇)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၆. ၆၀)ဧကအား B.O.T စနစ်ဖြင့် ငှားရမ်းရန်အတွက် စစ်ထောက်ချုပ်ရုံးနှင့် Kyauk Seinn Nagar ( Gems ) Co, Ltd.တို့ ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် ရှေ့နေချုပ်ရုံးမှ ဥပဒေရှုထောင့်မှ လေ့လာစိစစ်သုံးသပ်အကြံပြုပြီးသော စာချုပ် မူကြမ်းအား အမြန်ဆုံး ပြင်ဆင်ပေးပို့နိုင်ရေး အကြောင်းကြားအပ်ပါသည်။

ပူးတွဲပါ။ ပြင်ဆင်ပြီးစာချုပ်(မူကြမ်း) (၁)စုံ။

စစ်ထောက်ချုပ် ( ကိုယ်စား )

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထောင်စုရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄- ၂၈ /နပတ (၇၂၆ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ၊ ဇွန်လ ၂၅ ရက်

အကြောင်းအရာ။ **သံတွဲမြို့နယ်၊ မြပြင်ကျေးရွာရှိ မြေ ၆.၆၀ ဧကအား B.O.T စနစ်ဖြင့် Kyayk Seinn Nagar (Gems) Co, Ltd သို့ ငှားရမ်း ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၏ ၂၆-၅-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၉၀၄/ မသ-ဟိုတယ် / ထောက် ၅ က

၁။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်(၁/ ၂/ ၁၀/ ၁၀၇) ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ ၆.၆၀ ဧက အား B.O.T စနစ်ဖြင့် ငှားရမ်းရန်အတွက် စစ်ထောက်ချုပ်ရုံးနှင့် Kyayk Seinn Nagar (Gems) Co, Ltd တို့ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် ငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော စာချုပ် (မူကြမ်း) အား ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) ရည်ညွှန်းချက်ပါစာနှင့် စာချုပ်(မူကြမ်း)၏ မျက်နှာဖုံးတို့တွင် စစ်ထောက်ချုပ်ရုံးနှင့် ချုပ်ဆိုမည့်ကုမ္ပဏီအမည်အား Kyayk Seinn Nagar (Gems) Co, Ltd ဟုဖော်ပြထားပါသည်။ သို့သော် စာချုပ်ဝင်စာပိုဒ်နှင့် လက်မှတ်ရေးထိုး

မည့်နေရာတို့၌ ကုမ္ပဏီအမည်အား ကျောက်စိမ်းနဂါး(ကျောက်မျက်)ကုမ္ပဏီ လီမိတက်ဟုဖော်ပြထားရာ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏စာချုပ်ဝင်စာပိုဒ်တွင် တစ်ဖက်စာချုပ်ဝင်ဖြစ်သော ကုမ္ပဏီ ကိုယ်စားလက်မှတ်ရေးထိုးချုပ်ဆိုမည့်သူ၏ အမည်နှင့် နိုင်ငံသားစိစစ်ရေး ကဒ်ပြားတို့ကို ဖော်ပြထားခြင်းမရှိ၍ စာချုပ်ချုပ်ဆိုချိန်၌ ဖော်ပြရန်လိုအပ်ပါ သည်။ ထို့အပြင် စာချုပ်ဝင်စာပိုဒ်၌ ကုမ္ပဏီကိုယ်စားပြုသူသာလျှင် စာချုပ်၌ လက်မှတ် ရေးထိုးရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)၏မျက်နှာဖုံးနှင့်ခေါင်းစဉ်တို့၌ B.O.T စနစ်ဖြင့်ငှားရမ်းခြင်း သဘောတူစာချုပ်ဟု ဖော်ပြထားသော်လည်းစာချုပ်(မူကြမ်း)ပါ စည်းကမ်း ချက်များ၌ B.O.T စနစ်ဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြ ထားခြင်းမရှိ၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) တွင် စာပိုဒ်နံပါတ်များကို ရည်ရွယ်ချက်အပိုဒ်မှစ၍ အမှတ် စဉ်နံပါတ်တပ်၍ ဖော်ပြရန်ဖြစ်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၁၊ အပိုဒ် ၅(က)နှင့် အပိုဒ် ၂၃ တို့ ၌ ရည်ညွှန်းထား သော နောက်ဆက်တွဲများသည် စာချုပ်(မူကြမ်း)တွင် ပူးတွဲပါရှိလာခြင်းမရှိ ကြောင်းတွေ့ရှိရပါသည်။နောက်ဆက်တွဲများသည်စာချုပ်၏တစ်စိတ်တစ်ဒေသ ဖြစ်သောကြောင့် စာချုပ်ပါစည်းကမ်းချက်နှင့် နောက်ဆက်တွဲများ ညီညွတ် ရန်လိုအပ်ပြီး စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက်တွဲများကို ပြည့်စုံစွာ ပူးတွဲ ဖော်ပြရေးအတွက် ဌာနမှတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်။ ထို့အပြင် အငှားချ ထားသည့်မြေ၏ မြေပုံနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာနက တရားဝင်ရေးဆွဲ ထားသော မြေပုံဖြစ်ရန်လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၅(ခ) ငှားရမ်းခြင်းကာလ၌ "ကနဦးနှစ်(၅၀)" ဟု သာ ဖော်ပြထားပြီး မည်သည့်နေ့ရက်မှစတင်ကြောင်း၊ မည်သည့်နေ့ အထိ ဖြစ် ကြောင်း ဖော်ပြမထား၍ ဖော်ပြရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၅(ဂ)တွင် ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းကို မည်သူ ၏စရိတ်ဖြင့် တည်ဆောက်လုပ်ကိုင်မည်ကို တိကျစွာဖော်ပြရန်ဖြစ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၅(ဃ)တွင်ရင်းနှီးမြှုပ်နှံမှုပမာဏအား မြန်မာကျပ်ငွေ (၅၁၆၉) သန်းတိုးချဲ့ မြန်မာကျပ်ငွေ(၂၀၀၀)သန်းဟု ဖော်ပြထားချက်မှာ ရှင်းလင်းမှုမရှိသဖြင့် ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၆ငှားရမ်းခနှုန်းထားနှင့် ငွေပေးချေခြင်း နည်းလမ်း အပိုဒ်ခွဲ(င)တွင် "နှစ်စဉ်ငှားရမ်းခ US$ သို့မဟုတ် မြန်မာငွေများ ကို တစ်နှစ်လျှင်တစ်ကြိမ်ပေးသွင်းရမည်" ဟူ၍ ဖော်ပြထားသော်လည်း ငှားရမ်း စာချုပ်တွင် အဓိကအရေးကြီးသည့် ငှားရမ်းခကိုမည်သည့်နေ့ရက်မှ စတင် ပေးသွင်းရ မည်ဖြစ်ကြောင်းဖော်ပြမထား၍ မြေငှားရမ်းခပေးသွင်းရမည့် နေ့ရက်ဖော်ပြ ရန်လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၆ တွင် ငှားရမ်းခနှုန်းထားများ၊ ငွေပေးချေခြင်း နည်းလမ်း များ၊ မြေအသုံးချမှုပရီမီယံကြေး၊ ဆောင်ရွက်မည့်လုပ်ငန်း များ၊ တည်ဆောက်ရေးကာလစသည်တို့အားရောထွေးစွာဖော်ပြထားသဖြင့် သီးခြား ခေါင်းစဉ်များဖြင့် ရှင်းလင်းစွာဖော်ပြရန် အထူးလိုအပ်ပါသည်၊

(ဋ) စာချုပ် (မူကြမ်း) အပိုဒ် ၇၊ အပိုဒ်ခွဲ(က) ၌ ဖော်ပြထားသော အဆိုပြု တင်ပြ ထားသည့် စာချုပ်ပါအဆောက်အဦအကွက်ချပုံစံ (Site Plan) ၊ အဆောက်

အဦအမျိုးအစားအလိုက်၏ အရေအတွက်နှင့် ပုံစံ (Drawing) များကို နောက်ဆက်တွဲများအဖြစ် စာချုပ်တွင်ပူးတွဲဖော်ပြထားသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် ၈အငှားချထားသူ၏တာဝန်များ၌လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် လိုအပ်သောခွင့်ပြုချက်များ၊ လိုင်စင်များကို ရယူဆောင်ရွက်ပေးရမည်ဟု ဖော်ပြထားသဖြင့် သက်ဆိုင်ရာဌာနများနှင့် ကြိုတင်ညှိနှိုင်းဆောင်ရွက်သင့်ပါသည်၊

(ဍ) စာချုပ် (မူကြမ်း) အပိုဒ် ၁၀ တွင်စာချုပ်သက်တမ်းတိုးခြင်းခေါင်းစဉ်ဖြင့်ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ သို့ရာတွင် စာချုပ်(မူကြမ်း)တွင် အဓိကအရေးကြီးသော စာချုပ်သက်တမ်းမပါရှိသောကြောင့် မည်သည့်နေ့ရက်မှစတင်ပြီးမည်သည့်နေ့ရက်အထိဖြစ်ကြောင်းသီးခြားခေါင်းစဉ်ဖြင့်ဦးစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ စာချုပ်ရပ်စဲခြင်းအပိုဒ်ခွဲ (က)(၁)၌ "ဤစာချုပ်၏အဓိကတာဝန်များနှင့်စည်းကမ်းချက်တစ်ရပ်ရပ်ကိုစာချုပ်ဝင်တစ်ဖက်ဖက်ကဆောင်ရွက် ရန်ပျက်ကွက်ခြင်းဟုဖော်ပြထားရာ "အဓိကတာဝန်များ" ဟူသော စကားရပ်နှင့်စပ်လျဉ်း၍ နောင်အငြင်းမပွားစေရေးအတွက် ရှင်းလင်းစွာဖော်ပြရန် လိုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) စာချုပ်ရပ်စဲခြင်းနှင့် သက်ဆိုင်သောအပိုဒ် ၁၃(ဂ) တွင်ရည်ညွှန်းဖော်ပြထားသည့် အပိုဒ် ၈ မှာ အငှားချထားသူ၏တာဝန်များဖြစ်၍ဌာနမှပြန်လည်စိစစ် ရန်ဖြစ်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၂၀ စာပေးစာယူပြုလုပ်ရန်ကိစ္စ၌ နှစ်ဖက် စာချုပ်ဝင်များ၏တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ်၊ အီးမေးလ်လိပ်စာအပြည့် အစုံတို့ကို စာချုပ်ချုပ်ဆိုချိန်၌ ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) တွင် မြေငှားစာချုပ်များ၌ရယူလေ့ရှိသော လုပ်ငန်းအာမခံကို ရယူရန်သင့် မသင့် ဌာနမှစဉ်းစားသင့်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) ရှိ ကွက်လပ်များကို စာချုပ်ချုပ်ဆိုချိန်၌ ပြည့်စုံစွာဖော်ပြထားရန်လိုအပ်ပါသည်၊

(ဓ) လိုအပ်သောနေရာများ၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်၊

၃။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သော တံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူများက ထမ်းဆောင်ရမည် ဖြစ်ပါသည်။

၄။ ဤစာချုပ်(မူကြမ်း) ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ ကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းရန် အကြံပြုပါသည်။

၅။ Kyayk Seinn Nagar (Gems) Co, Ltd သည် ဥပဒေအရ တရားဝင် ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင် နိုင်ခွင့်နှင့်လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူများသည် တရားဝင်လွှဲအပ်ခြင်းခံရသူများဟုတ် မဟုတ် စသည်တို့ကို ကြိုတင် စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ စာချုပ်(မူကြမ်း) ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံးသို့ မိတ္တူ (၃) စုံ ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၇။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**စစ်ထောက်ချုပ်ရုံး**

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

# ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
# စစ်ထောက်ချုပ်ရုံး

နှင့်

# Jade Marina Resort Hotel Co., Ltd.
# (Kyauk Seinn Nagar (Gems) Co., Ltd.)

တို့၏

ကာကွယ်ရေးဝန်ကြီးဌာနပိုင် သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်၊
မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်
(၁/၂/၁၀၆/၁၀၇)ရှိ မြေ(၆.၆၀)ဧကအား

(B . O . T)စနစ်ဖြင့်
ငှားရမ်းခြင်းသဘောတူစာချုပ်မူကြမ်း

နေရာ။ နေပြည်တော်။

ရက်စွဲ။ ၂၀၁၆ ခုနှစ်၊ လ( )ရက်

# ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်(၁/၂/၁၀၆/၁၀၇) မြပြင်ကျေးရွာရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၆.၆၀) ဧကအား B.O.T စနစ်ဖြင့်ငှားရမ်းခြင်းသဘောတူစာချုပ်

(၁) ဤသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ( )ရက်နေ့တွင် နေပြည်တော်၌ ------၊ ရာထူး --------ကိုယ်စားပြုသော ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး၊ နေပြည်တော်(နောင်တွင် "အငှားချထားသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် အငှားချထားသူ၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်နှင့်

(၂) ------------ကိုယ်စားပြုသော မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် ရန်ကုန်တိုင်းဒေသကြီး၊ မရမ်းကုန်းမြို့နယ်၊ ပြည်လမ်း၊ ၇-မိုင်ခွဲ၊ အမှတ်(၃၉-အေ)တွင်တည်ရှိသော Jade Marina Resort Hotel Co., Ltd. (Kyauk Seinn Nagar (Gems) Co., Ltd.) (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်စေပြီး ယင်းစကားရပ်တွင် အငှားချထားခြင်းခံရသူ၏ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ၊ ဆက်ခံသူများနှင့်တရားဝင် ကိုယ်စားလှယ်များပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့သည် အောက်ပါစည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဖက်သဘောတူစာချုပ်ချုပ်ဆိုကြပါသည်။

**ရည်ရွယ်ချက်**

၁။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ခေတ်မီဖွံ့ဖြိုးတိုးတက်ပြောင်းလဲလာမှုများနှင့် အညီ ပြည်တွင်း/ပြည်ပ စီးပွားရေးလုပ်ငန်းရှင်များအား ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေများငှားရမ်း၍ နိုင်ငံတကာအဆင့်မီ ဟိုတယ် လုပ်ငန်းများဆောက်လုပ်ခြင်းဖြင့် ပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းနှင့် စီးပွားရေးဖွံ့ဖြိုးမှုများ ပိုမိုတိုးတက်မှုရရှိစေရန်ရည်ရွယ်၍ ချုပ်ဆိုခြင်းဖြစ်ပါသည်။

**အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း**

၂။ အငှားချထားသူသည် နောက်ဆက်တွဲများတွင်အသေးစိတ်ဖော်ပြထားသော အငှားချထားသည့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်(၁/၂/၁၀၆/၁၀၇) မြေ(၆.၆၀)ဧကကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိသူဖြစ်ကြောင်းအာမခံပါသည်။ အငှားချထားခြင်းခံရသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ အထက်ပါမြေကိုငှားရမ်းပြီး ဟိုတယ်လုပ်ငန်း လုပ်ကိုင်ရန်၊ စာချုပ်ကိုအကောင်အထည်ဖော်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ပြီး အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် စာချုပ်တွင်လက်မှတ်ရေးထိုး ချုပ်ဆိုခွင့်ရှိသူများဖြစ်ကြောင်းနှင့် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသူများဖြစ်ကြောင်း အသီးသီးအာမခံပါသည်။

၃။ **အငှားချထားသည့် မြေတည်နေရာနှင့်ငှားရမ်းခြင်းသက်တမ်း။**
ငှားရမ်းသည့်မြေတည်နေရာ၊ ငှားရမ်းခြင်းသက်တမ်းနှင့် ဆောင်ရွက်ရမည့်လုပ်ငန်းတို့ကို အောက်ဖော်ပြပါ အတိုင်းဆောင်ရွက်ရပါမည်-

(က) **ငှားရမ်းသည့်မြေတည်နေရာ။** ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက် အမှတ်(၁/၂/၁၀၆/၁၀၇)ရှိ ပူးတွဲ(၁)ဖြင့်တင်ပြထားသော မြေပုံတွင် အနီအမှတ်အသားပြထားသည့် ဘောင်အတွင်းရှိ မြေ(၆.၆၀)ဧကဖြစ်ပါသည်။

(ခ) **ငှားရမ်းခြင်းကာလ။** ကနဦးနှစ်(၅၀)( ) ရက်နေ့မှ ( )ရက်နေ့အထိ ငှားရမ်းပြီး၊ ကနဦးသက်တမ်းကုန်ဆုံးပါက တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်အထိ တိုးမြှင့်ငှားရမ်းနိုင်သည်။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဟိုတယ်လုပ်ငန်း။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာကျပ်ငွေ(၇၁၆၉)သန်း။

၄။ **ငှားရမ်းခနှုန်းထားနှင့်ငွေပေးချေခြင်းနည်းလမ်း။** အငှားချထားခြင်းခံရသူသည် အဆိုပါမြေ (၆.၆၀)ဧကကို B.O.T စနစ်ဖြင့်ငှားရမ်းခြင်းအတွက် အောက်ဖော်ပြပါငှားရမ်းခနှုန်းထားများအတိုင်း ပေးဆောင်ရမည်-

(က) တည်ဆောက်ရေးကာလ(၂)နှစ်ဖြစ်သော( - - )ရက်မှ( - - ) ရက်အတွင်းမြေငှားရမ်းခကင်းလွတ်ခွင့်ပြုပြီး( - - )ရက်နေ့မှစ၍ မြေငှားရမ်းခ တွက်ချက်ရမည်။

(ခ) **ငှားရမ်းခနှုန်းထား**

- နှစ်စဉ်ငှားရမ်းခအား တစ်နှစ်လျှင် မြန်မာငွေကျပ်သိန်း(၃၃၀)နှင့် US$-16500 နှစ်မျိုးလုံးဖြင့် နှစ်(၅၀) ပေးသွင်းပါမည်။ နှစ်စဉ်ငှားရမ်းခပေးသွင်းခြင်းအား နိုင်ငံခြားငွေ Exchange Rate ပြောင်းလဲမှုပေါ်မူတည်၍ US$ နှင့်ညီမျှသော မြန်မာငွေကို ပေးသွင်းနိုင်သည်။
- အထက်ပါသတ်မှတ်ထားသော နှစ်စဉ်ငှားရမ်းခ US$ (သို့မဟုတ်)မြန်မာငွေများကို (၁)နှစ်လျှင် တစ်ကြိမ်ပေးသွင်းရမည်။

(ဂ) **မြေအသုံးချမှုပရီမီယံကြေး**

မြေအသုံးချမှုပရီမီယံကြေးအား မြေ(၁)ဧကလျှင် မြန်မာငွေကျပ်(၂၅၀၀)သိန်းနှုန်း ဖြင့်မြေ(၆.၆၀)ဧကအတွက် စုစုပေါင်းကျပ်(၁၆၅၀၀)သိန်းအား-

- B.O.T စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ(၁)လအတွင်း(၂၅%)အားလည်းကောင်း၊
- B.O.T စာချုပ်ချုပ်ဆိုပြီး (၈)လအတွင်း (၂၅%)အားလည်းကောင်း၊
- B.O.T စာချုပ်ချုပ်ဆိုပြီး (၁၆)လအတွင်း (၂၅%)အားလည်းကောင်း၊
- B.O.T စာချုပ်ချုပ်ဆိုပြီး (၂၄)လအတွင်း (၂၅%)အားလည်းကောင်း၊ (၄)ကြိမ်ခွဲပြီး ပေးသွင်းရမည်။
- မြေအသုံးချမှုပရီမီယံကြေးကို အထက်ပါသဘောတူညီချက်အတိုင်း အချိန်မီပေးချေခြင်းမပြုပါက ကျော်လွန်သည့်တစ်ရက်လျှင် ပေးချေရမည့်ငွေ၏ (၀.၀၅%)(သုညသုညငါးရာခိုင်နှုန်း)နှင့် ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူကပေးဆောင်ရမည်။

(ဃ) ငွေပေးသွင်းရာတွင် မြန်မာငွေနှင့်နိုင်ငံခြားငွေများကို ကာကွယ်ရေးရငွေစာရင်းအမှတ် MD-၀၁၀၄၂၄ သို့ပေးသွင်းရန်နှင့် ငွေသွင်းပြေစာမူရင်းများပေးပို့ရမည်။

(င) ငှားရမ်းခများကို ပေးဆောင်ရန်အချိန်စေ့ရောက်ပြီးသည့်နေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း အငှားချထားခြင်းခံရသူက အထက်အပိုဒ်(ဃ)ပါ ငွေစာရင်းခေါင်းစဉ်သို့ပေးသွင်းရမည်။

(စ) နှစ်စဉ်ငှားရမ်းခကို အထက်အပိုဒ်(ခ)ပါ သဘောတူညီချက်အတိုင်း အချိန်မီပေးချေခြင်း မပြုပါက ကျော်လွန်သည့်တစ်ရက်လျှင်ပေးချေရမည့်ငွေ၏ (၀.၀၅%)(သုညဒသမသုညငါးရာခိုင်နှုန်း) နှင့်ညီမျှသောငွေကို ဒဏ်ကြေးအဖြစ် အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဆ) မူလအဆောက်အဦအဟောင်းအားပြုပြင်ဆောင်ရွက်မည့်လုပ်ငန်းအားလုံးကို စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍(၁)နှစ်အတွင်း၊ အဆောက်အဦအသစ်ပြန်လည်တည်ဆောက်မည့် လုပ်ငန်းအားလုံးကို စာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၂)နှစ်အတွင်း အပြီးဆောက်လုပ်၍ဖွင့်လှစ်ရမည်။ အကယ်၍ သတ်မှတ် ကာလအတွင်း ဖွင့်လှစ်နိုင်ခြင်းမရှိပါက ငှားရမ်းထားသောမြေနှင့် အဆောက်အဦများကို အငှား ချထားသူထံသို့ ပြန်လည်အပ်နှံရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူမှ ပေးသွင်းခဲ့သော မြေအသုံးချခများကို ပြန်လည်ထုတ်ပေးခြင်း ပြုလုပ်မည်မဟုတ်ပါ။

(ဇ) နှစ်စဉ်ငှားရမ်းခကို(၅)နှစ်(ငါးနှစ်)တစ်ကြိမ် နှစ်ဖက်ပြန်လည်ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ (၁၅%) ထက် မကျော်လွန်စေရ။

(ဈ) အဆောက်အဦများအား ဖျက်သိမ်းသောလုပ်ငန်းများအတွက် ဖျက်သိမ်းသောအဆောက်အဦ၏တန်ဖိုးကို သတ်မှတ်ထားသည့် တန်ဖိုးလျော့နှုန်းထားများအတိုင်း ပေးသွင်းရမည်။

၅။ **အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်အခွင့်အရေးများ။** အငှားချထားခြင်းခံရသူသည် အောက်ပါ စည်းကမ်းများအား လိုက်နာဆောင်ရွက်ရမည်ဖြစ်ပါသည်-

(က) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦအကွက်ချပုံစံ (Site Plan) အဆောက်အဦအမျိုးအစားအလိုက်၏ အရေအတွက်နှင့်ပုံစံ(Drawing)များ အတိုင်းသာ ဆောက်လုပ်သွားရမည်ဖြစ်ပြီး ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ ပြန်လည်တင်ပြ၍ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်။

(ခ) အငှားချထားခြင်းခံရသူသည် အငှားချထားစဉ်ကာလအတွင်း ယင်းမြေ၏လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ တစ်ဆင့်အငှားချထားခြင်း၊ ထုခွဲရောင်းချခြင်း၊ တစ်နည်းနည်းဖြင့် တစ်ဆင့်လွှဲပြောင်းခြင်းမပြုလုပ်ရ။

(ဂ) ငှားရမ်းသည့်အချိန်ကာလအတွင်း မြေပေါ်တွင်တည်ဆောက်မည့် အဆောက်အဦများကို မီးအာမခံနှင့် အခြားလိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေအရထားရှိရန် အငှားချထားခြင်းခံရသူက တာဝန်ယူရမည်။

(ဃ) အငှားချထားခြင်းကိစ္စနှင့်စပ်လျဉ်း၍ မြေခွန်မှအပ အခြားစည်ပင်သာယာအခွန်အပါအဝင် လုပ်ငန်းဆောင်ရွက်မှုနှင့်သက်ဆိုင်သောအခွန်အခအားလုံးကို အချိန်မှန်မှန်ပေးသွင်းရမည်။

(င) နိုင်ငံတော်မှချမှတ်ထားသော မူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသောလုပ်ငန်းရပ်များ လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(စ) စာချုပ်ပါလုပ်ငန်းများဆောင်ရွက်ရာတွင် နည်းပညာအရသော်လည်းကောင်း၊ စီမံခန့်ခွဲမှုအရ သော်လည်းကောင်း၊ ရင်းနှီးမြှုပ်နှံမှုအရသော်လည်းကောင်း၊ အငှားချထားသူ၏ခွင့်ပြုချက်ဖြင့် အခြားကုမ္ပဏီ(၁)ခုနှင့် ပူးပေါင်းဆောင်ရွက်နိုင်သည်။ သို့ရာတွင် အငှားချထားခြင်းခံရသူအား ဤစာချုပ်ပါတာဝန်များမှ ကင်းလွတ်ခွင့်ပြုမည်မဟုတ်ပါ။

၆။ **အငှားချထားသူ၏တာဝန်များ။** အငှားချထားသူသည် အောက်ပါစည်းကမ်းများအား လိုက်နာဆောင်ရွက် ရမည်ဖြစ်ပါသည် –

(က) အငှားချထားသူသည် ငှားရမ်းသည့်မြေခွန်ကိုပေးဆောင်ရမည်။

(ခ) အငှားချထားသူသည် ဟိုတယ်လုပ်ငန်းများ လုပ်ငန်းဆောင်ရွက်ခွင့်ရရှိရေးအတွက် လိုအပ်သော ခွင့်ပြုချက်များကို အငှားချထားခြင်းခံရသူက ရရှိရန်ကူညီဆောင်ရွက်ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုပိုင်ခွင့်ရရှိမည်။

(ဃ) ဟိုတယ်လုပ်ငန်းများ လုပ်ငန်းဆောင်ရွက်ရေးအတွက် ဥပဒေအရလိုအပ်သောခွင့်ပြုချက်များ၊ လိုင်စင်များကို သက်ဆိုင်ရာဌာနများမှရရှိရန် ကူညီဆောင်ရွက်ရမည်။

(င) ဆောက်လုပ်မည့်အဆောက်အဦများအတွက် ကန့်သတ်ချက်ရှိလာပါက အငှားချထားသူအနေဖြင့် အဆောက်အဦများ ပြောင်းလဲဆောက်လုပ်ခြင်းကို စဉ်းစားဆောင်ရွက်ပေးရမည်။

၇။ **မြေနှင့်အဆောက်အဦလွှဲပြောင်းပေးအပ်ခြင်း။** ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ(သို့မဟုတ်)စာချုပ်ရုပ်စဲသည့်အခါ စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ(သို့မဟုတ်) စာချုပ်ရုပ်စဲသည့်နေ့မှ(၃)လအတွင်း အငှားချထားခြင်းခံရသူက အငှားချထားသည့်မြေနှင့်အဆောက်အဦများ၊ ၎င်းမြေပေါ်ရှိအငှားချထားခြင်းခံရသူမှ ဆောက်လုပ်ထားသော အဆောက်အဦနှင့်ပစ္စည်းများအားလုံး မည့်သည့် အဖိုးစားနားမျှမပါရှိဘဲ အငှားချထားသူအား ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ခြင်း ပြုရမည်။ သို့ရာတွင်ဟိုတယ်လုပ်ငန်းနှင့်မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့ သည့်အဆောက်အဦတွင် တပ်ဆင်ထားသည့်(Fixture)ပစ္စည်းများမှအပ ကျန်ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများ အားလုံးကို အငှားချထားခြင်းခံရသူမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

၈။ **စာချုပ်သက်တမ်းနှင့်စာချုပ်သက်တမ်းတိုးခြင်း။** စာချုပ်သက်တမ်းနှင့် စာချုပ်သက်တမ်း တိုးခြင်းတို့အား အောက်ပါစည်းကမ်းချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်–

(က) ဤသဘောတူစာချုပ်၏စာချုပ်သက်တမ်းမှာ ( . . )ရက်နေ့မှ( . . ) အထိနှစ်(၅၀)ဖြစ်သည်။

(ခ) အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၃)လကြိုတင်၍ အငှားချထားသူသို့ စာဖြင့်အကြောင်းကြားတင်ပြရမည်။ ကနဦး နှစ်(၅၀)ငှားရမ်းပြီး နှစ်ဖက်သဘောတူညီချက်ရရှိပြီးပါက တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း

(၂)ကြိမ်အထိ စာချုပ်သက်တမ်းတိုးမြှင့်နိုင်သည်။ သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

၉။ **စာချုပ်အကျိုးသက်ရောက်မည့်နေ့ရက်။** ဤစာချုပ်သည် အငှားချထားသူနှင့်အငှားချထားခြင်း ခံရသူတို့ တရားဝင်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ အကျိုးသက်ရောက်စေရမည်။

၁၀။ **အငြင်းပွားမှုဖြေရှင်းခြင်း။** ဤမြေငှားစာချုပ်မှ အငြင်းပွားမှုပေါ်လာပါက ထိုအငြင်းပွားမှုကိုနှစ်ဦး နှစ်ဖက် ငြိမ်းချမ်းစွာညှိနှိုင်းဖြေရှင်းကြရမည်။ ဤကဲ့သို့ညှိနှိုင်းဖြေရှင်းမရပါက ဥပဒေနှင့်အညီ စီရင်ဆုံးဖြတ်ခွင့်ရှိသော တရားရုံး၏အဆုံးအဖြတ်ကိုခံယူရမည်။

၁၁။ **စာချုပ်ရုပ်သိမ်းခြင်း။**

(က) ဤစာချုပ်ကိုချုပ်ဆိုသူများသည် အောက်ဖော်ပြပါအကြောင်းအခြင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ကိုရုပ်သိမ်းခွင့်ရှိစေရမည်–

(၁) ဤစာချုပ်ပါတာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(၂) မလွန်ဆန်နိုင်သောဖြစ်ရပ်သည် တစ်ဆက်တည်း(၆)လ ကာလကြာမြင့်ခြင်း၊

(၃) လုပ်ငန်း၏ မူလရည်မှန်းချက်များကိုဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း

(၄) နှစ်ဖက်သဘောတူ စာချုပ်ရုပ်သိမ်းခြင်း၊

(ခ) ဤစာချုပ်ချုပ်ဆိုသူများ၏ လုပ်ငန်းရုပ်သိမ်းလိုကြောင်း စာဖြင့်ရေးသားတင်ပြချက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးနောက်မှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

(ဂ) အထက်ဖော်ပြပါအကြောင်းအရာများကြောင့် စာချုပ်ရုပ်သိမ်းသည့်အခါ စာချုပ်ရုပ်သိမ်းပြီးနောက် (၃)လအတွင်း မြေနှင့်တကွမြေပေါ်ရှိအဆောက်အဦ၊ တပ်ဆင်ထားသောပစ္စည်းများအပါအဝင် စာချုပ်အပိုဒ်(၉)နှင့်အညီ အငှားချထားခြင်းခံရသူက အငှားချထားသူသို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

၁၂။ **ညှိနှိုင်းဆွေးနွေးခြင်းနှင့်စာချုပ်ပြင်ဆင်ခြင်း။** လုပ်ငန်းများအကောင် အထည်ဖော်ဆောင် ရွက်ရာတွင် ပေါ်ပေါက်လာသည့်အခြေအနေများ(သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ် စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန်လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦး နှစ်ဖက်စလုံး လိုအပ်သောညှိနှိုင်း ဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကိုနှစ်ဦးသဘောတူစာဖြင့် ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုသို့ပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောတူမှသာလျှင် အတည်ဖြစ်စေရမည်။

၁၃။ **ဓာတ်သတ္တုအရင်းအမြစ်များနှင့်ရတနာများ။** ဤစာချုပ်၏သက်တမ်းကာလအတွင်း ငှားရမ်း ထားသောမြေ၏ မြေပေါ်မြေအောက်အတွင်းမှ မမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက် ရတနာများနှင့် သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများကိုတွေ့ရှိလျှင် သက်ဆိုင်ရာ မြန်မာနိုင်ငံ တော်အစိုးရအဖွဲ့အစည်းသို့ ချက်ခြင်းအကြောင်းကြားတင်ပြပေးရမည်။ ထိုပစ္စည်းများကို နိုင်ငံတော်က ပိုင်ဆိုင်ပြီး နိုင်ငံတော်ကခွင့်ပြုလျှင် အငှားချထားသူနှင့် သက်ဆိုင်ရာအဖွဲ့အစည်းက လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။

၁၄။ **မလွန်ဆန်နိုင်သောဖြစ်ရပ်များ။** မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော် အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝီရိယ နှင့်ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန် နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့်မရှိစေရ။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ(၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက် ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၁၅။ **ဝန်ထမ်းများခန့်ထားခြင်း။** လိုအပ်သောဝန်ထမ်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ဥပဒေများနှင့်အညီ အငှားချထားခြင်းခံရသူသည်ခန့်ထားပြီး၊ ယင်းတို့၏လစာများ၊ အခကြေးငွေများ၊ ခရီးစရိတ်များ၊ အခွင့်အရေးများကို ဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ ခွင့်ပြုသွားရမည်။ နိုင်ငံခြားသားဝန်ထမ်းများကို ခန့်ထားရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်။ နိုင်ငံခြားသားဝန်ထမ်းများ၊ ယင်းတို့၏မိသားစုများသည် မြန်မာနိုင်ငံတွင်နေထိုင်စဉ် မြန်မာနိုင်ငံ၏ဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် အငှားချထားခြင်းခံရသူကတာဝန်ယူရမည်။

၁၆။ **ကင်းလွတ်ခွင့်၊ သက်သာခွင့်များ။** မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော အခွန်ကင်းလွတ်ခွင့်များ၊ အကောက်ခွန်ကင်းလွတ်ခွင့်များနှင့် အခြားသက်သာခွင့်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ဖြင့် ခံစားခွင့်ရရှိစေရန် အငှားချထားသူမှ ကူညီဆောင်ရွက်ပေးမည်ဖြစ်သည်။

၁၇။ **ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။** အငှားချထားခြင်းခံရသူသည် စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်ရန်၊ ရေဆိုးများသန့်စင်စေရန်စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို အစီအမံပြုလုပ်ထားရမည်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၁၈။ **စာပေးစာယူပြုလုပ်ရန်ကိစ္စ။** စာပေးစာယူပြုလုပ်ရာတွင် မြန်မာဘာသာ(သို့မဟုတ်)အင်္ဂလိပ်ဘာသာဖြင့်ရေးသား၍ မှတ်ပုံတင်စာပို့ခြင်း၊ လေကြောင်းစာပို့ခြင်း၊ အမြန်ချောပို့ခြင်း၊ တဲလက်စ်ဖြင့်ပို့ခြင်း၊ အီးမေးလ်၊ ဖက်စ်ဖြင့်ပို့ခြင်းတို့ကိုအသုံးပြု၍ အောက်ပါလိပ်စာအတိုင်း အချင်းချင်းဆက်သွယ်ရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည် -

(က) **အငှားချထားသူ**

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး၊ နေပြည်တော်။

(ခ) **အငှားချထားခြင်းခံရသူ**

Jade Marina Resort Hotel Co., Ltd. (Kyauk Seinn Nagar (Gems) Co., Ltd.)
အမှတ်(၃၉-အေ)၊ ၇-မိုင်ခွဲ၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၁၉။ **မြေသို့ပြန်လည်ဝင်ရောက်ခွင့်**။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်)လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်မြေနှင့် အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသောငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၀။ **အာမခံထားခြင်း**။ အငှားချထားခြင်းခံရသူသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ မြန်မာ့အာမခံ ဥပဒေပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုအပ်သောအမျိုးအစားအားလုံး အာမခံများပေးရမည်။

၂၁။ **အထွေထွေ**။ ဤစာချုပ်တွင်ပါရှိသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ ဟိုတယ်အဆောက် အဦပုံစံများ၊ အထောက်အထားများသည် ဤသဘောတူစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်ပါသည်။

၂၂။ ၂၀၀၇ ခုနှစ်၊ စက်တင်ဘာလ(၉)ရက်နေ့တွင် ချုပ်ဆိုခဲ့သော မူလစာချုပ်အားပယ်ဖျက်၍ ဤသဘောတူ စာချုပ်အား အစားထိုးရမည်ဖြစ်ပါသည်။

၂၃။ အထက်စာချုပ်ပါ စည်းကမ်းချက်များကို "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့ သေချာစွာ ဖတ်ရှုပြီး နှစ်ဦးနှစ်ဖက်သဘောတူလက်ခံပါသဖြင့် ၂၀၁၆-ခုနှစ်၊-------လ၊--- ရက်နေ့၌ အောက်ပါ အသိသက်သေများရှေ့မှောက်တွင် "အငှားချထားသူ"နှင့်"အငှားချထားခြင်းခံရသူ" တို့က လက်မှတ်ရေးထိုးကြပါသည်-

| **အငှားချထားသူ**(ကိုယ်စား) | **အငှားချထားခြင်းခံရသူ**(ကိုယ်စား) |
|---|---|
| **ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)** | Jade Marina Resort Hotel Co., Ltd. |
| | (Kyauk Seinn Nagar (Gems) Co., Ltd.) |

| | | | |
|---|---|---|---|
| လက်မှတ် | -------------- | လက်မှတ် | ----------------- |
| အဆင့်/အမည် | -------------- | အမည် | ----------------- |
| ပြန်တမ်းဝင်အမှတ် | -------------- | မှတ်ပုံတင်အမှတ် | ----------------- |
| ရာထူး | -------------- | လိပ်စာ | ----------------- |
| လိပ်စာ | -------------- | | ----------------- |
| | -------------- | | ----------------- |



01 SW-01 **SITE PLAN**
**SCALE** $\frac{1}{64}$"= 1'-0"

| | |
|---|---|
| CLIENT: | Myint Myat Thu |
| PROJECT | JADE MARINA RESORT & SPA |
| PROJECT NO. 2015 7-3 | BLOCK NO. / LOT NO. / ROAD NO. / TOWNSHIP |
| SUBJECT | SITE PLAN |
| SCALE : 1/32"=1-0" | DWG.NO. : SW-01 |
| DATE : | |
| DRAWN/DSG : | |
| APPROVED : | |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)

# JADE MARINA RESORT & SPA

**PROPOSED DE-LUXE PAVILION**



**EXTERIOR VIEW OF DE-LUXE PAVILION**

Architectural

CLIENT : **Myint Myat Thu**



Exterior View of Deluxe RM ( Grd.Flr )



01 AR-01 **GROUND FLOOR PLAN**

SCALE $\frac{1}{16}$" = 1'-0"

| | |
|---|---|
| CLIENT: | Myint Myat Thu |
| PROJECT | JADE MARINA RESORT & SPA |
| PROJECT NO. | BLOCK NO. / LOT NO. / ROAD NO. / TOWNSHIP |
| SUBJECT | GROUND FLOOR PLAN |
| SCALE : | 3/8"=1-0" |
| DATE : | |
| DRAWN/DSG : | |
| APPROVED : | |
| DWG.NO. : | AR-01 |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)




**01 / AR-02** **FIRST FLOOR PLAN**

**SCALE** $\frac{1}{16}$" = 1'-0"

| | |
|---|---|
| CLIENT: | Myint Myat Thu |
| PROJECT | JADE MARINA RESORT & SPA |
| PROJECT NO. | BLOCK NO. / LOT NO. / ROAD NO. / TOWNSHIP |
| SUBJECT | FIRST FLOOR PLAN |
| SCALE : | 3/8"=1-0" |
| DATE : | |
| DRAWN/DSG : | |
| APPROVED : | |
| DWG.NO. : | AR-02 |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)




**01 / AR-03** **ROOF PLAN**

**SCALE $\frac{1}{16}$" = 1'-0"**

| CLIENT: |
|---|
| Myint Myat Thu |

| PROJECT |
|---|
| JADE MARINA RESORT & SPA |

| PROJECT NO. | BLOCK NO. | |
|---|---|---|
| | LOT NO. | |
| | ROAD NO. | |
| | TOWNSHIP | |

| SUBJECT | ROOF PLAN |
|---|---|

| SCALE : | 3/8"=1-0" | DWG.NO. : |
|---|---|---|
| DATE : | | AR-03 |
| DRAWN/DSG : | | |
| APPROVED : | | |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)




01/04 **FRONT ELEVATION**
**SCALE** 1/16 = 1'-0"

| | |
|---|---|
| CLIENT: | Myint Myat Thu |
| PROJECT | JADE MARINA RESORT & SPA |
| PROJECT NO. | BLOCK NO. / LOT NO. / ROAD NO. / TOWNSHIP |
| SUBJECT | FRONT ELEVATION |
| SCALE : | 3/8"=1-0" |
| DATE : | |
| DRAWN/DSG : | |
| APPROVED : | |
| DWG.NO. : | AR-04 |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)




01 AR-05 **RIGHT-SIDE ELEVATION**
SCALE 1/16 = 1'-0"

| CLIENT: | |
|---|---|
| Myint Myat Thu | |
| PROJECT | |
| JADE MARINA RESORT & SPA | |

| PROJECT NO. | BLOCK NO. | |
|---|---|---|
| | LOT NO. | |
| | ROAD NO. | |
| | TOWNSHIP | |

| SUBJECT | RIGHT-SIDE ELEVATION |
|---|---|

| SCALE : | 3/8"=1-0" | DWG.NO. : |
|---|---|---|
| DATE : | | AR-05 |
| DRAWN/DSG : | | |
| APPROVED : | | |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)




## 01 AR-06 LEFT-SIDE ELEVATION

**SCALE** **1/16 = 1'-0"**

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)

| | |
|---|---|
| CLIENT: | Myint Myat Thu |
| PROJECT | JADE MARINA RESORT & SPA |

| PROJECT NO. | BLOCK NO. | |
|---|---|---|
| | LOT NO. | |
| | ROAD NO. | |
| | TOWNSHIP | |

| SUBJECT | LEFT-SIDE ELEVATION |
|---|---|

| | | |
|---|---|---|
| SCALE : | 3/8"=1-0" | DWG.NO. : |
| DATE : | | AR-06 |
| DRAWN/DSG : | | |
| APPROVED : | | |




01
AR-07

## REAR ELEVATION

SCALE 1/16 = 1'-0"

| CLIENT: | Myint Myat Thu |
|---|---|
| PROJECT | JADE MARINA RESORT & SPA |
| PROJECT NO. | BLOCK NO. |
| | LOT NO. |
| | ROAD NO. |
| | TOWNSHIP |
| SUBJECT | REAR ELEVATION |
| SCALE : | 3/8"=1-0" |
| DATE : | |
| DRAWN/DSG : | |
| APPROVED : | |
| DWG.NO. : | AR-07 |

Daw Waine Myat Noe
B.E (Civil)
Senior Licensed Engineer
Y.C.D.C (LS-2312)

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-ထွေ/၂၀၁၅( ၉၃၄ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာ လ ၁ ရက်

သို့

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

အကြောင်းအရာ။ **Kyauk Seinn Nagar(Gems)Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ မြေ (၆.၆)ဧကတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် တင်ပြလာခြင်းအား အကြောင်းကြားခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး ၏ (၁၃-၁၁-၂၀၁၅) ရက်စွဲပါ စာအမှတ်၊၉၀၄/မသ-ဟိုတယ်/ထောက်၅က

၁။ Kyauk Seinn Nagar (Gems)Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေ(၆.၆၀)ဧက တွင် B.O.T စနစ်ဖြင့် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မြင့်မြတ်သူမှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံး မှတစ်ဆင့် ရည်ညွှန်းပါ စာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား စိစစ်ရာ အောက်ဖော်ပြပါအတိုင်း တွေ့ရှိရပါသည်-

(က) အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအမည်သည် Kyauk Seinn Nagar (Gems)Co., Ltd. အစား Jade Marina Resort Hotel Co., Ltd. အမည်ဖြင့် တင်ပြထားပါသဖြင့် ပြန်လည်စိစစ်တင်ပြရန်။

(ခ) အဆိုပြုလုပ်ငန်းအား လုပ်ငန်းအသစ် နှင့် လုပ်ငန်း အဟောင်းခွဲခြား၍ မူလ လုပ်ငန်း၊ တိုးချဲ့လုပ်ငန်း ဟူ၍ လုပ်ငန်းအပိုင်းအလိုက် တင်ပြရန်။

(ဂ) လုပ်ငန်းဆောင်ရွက်မည့် တည်နေရာ အထောက်အထားများ တင်ပြရန်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၉) ပုဒ်မ ၁၈(ခ)အရ အဆိုပြုချက်အား လက်ခံပါက ခွင့်ပြုမိန့်ကို ရက်ပေါင်း (၉၀)အတွင်း ထုတ်ပေးရမည် ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Kyauk Seinn Nagar (Gems)Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာရှိ မြေ (၆.၆၀)ဧက တွင် B.O.T စနစ်ဖြင့် ဟိုတယ် အပန်းဖြေစခန်း ဝန်ဆောင်မှု

**ကန့်သတ်**

လုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းအား စာပိုဒ်(၁)ပါ အချက်များအား စိစစ်ပေးပါရန် နှင့် အချက်အလက် ပြည့်စုံပါက ပြန်လည်တင်ပြရန် ညွှန်ကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Kyauk Seinn Nagar (Gems)Co., Ltd.

Jade Marina Resort Hotel Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အဆိုပြုချက် ပြင်ဆင်ပေးပို့ တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၇-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-ထွေ/၂၀၁၅(၅၁၀-က)

၁။ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိမြေ ၆. ၆၀ ဧကတွင် Kyauk Seinn Nagar(Gems) Co., Ltd., သည် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအပေါ် ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ်များနှင့် ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ပြီး ထပ်မံတိုးချဲ့ဆောင်ရွက်သည့်လုပ်ငန်းများကိုသာ ခွင့်ပြုပေးကြောင်းနှင့် ကုမ္ပဏီတင်ပြသောလုပ်ငန်းသည် ဆောင်ရွက်ဆဲလုပ်ငန်းအဟောင်းဖြစ်သဖြင့် အဆိုပြုချက်အား ပြန်လည်ပြင်ဆင်ပေးပို့ရန် အကြောင်းကြားလာခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ အဆိုပြုချက်များအား ကုမ္ပဏီအနေဖြင့် ပြုစုပြီးဖြစ်ကြောင်း တင်ပြလာခြင်းအပေါ် လိုအပ်သလိုဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် အကြောင်းကြား အပ်ပါသည်။

စစ်ထောက်ချုပ်

မိတ္တူကို

Kyauk Seinn Nagar(Gems) Co., Ltd.,

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ ရက-၄/ မ- ထွေ/၂၀၁၅ ( ၅၁၀-က )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင် လ ၂၃ ရက်

သို့

**ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)**
**စစ်ထောက်ချုပ်ရုံး**

အကြောင်းအရာ။ **Kyauk Seinn Nagar (Gems) Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ ငပလီကမ်းခြေတွင် B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၏ (၁၆-၆-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က

၁။ Kyauk Seinn Nagar (Gems) Co., Ltd. မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိမြေ (၆.၆၀)ဧကအား B.O.T စနစ်ဖြင့် ငှါးရမ်း၍ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်မြင့်မြတ်သူ [အဘ-ဦးနေဝင်းဆွေ (ခ) ဦးနေဝင်းထွန်း]မှ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး မှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ ထို့ပြင် Kyauk Seinn Nagar (Gems) Co., Ltd. သည် Jade Marina Hotel လုပ်ငန်း ဆောင်ရွက်မည့်မြေအား ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးထံမှ ၂၀၀၇ ခုနှစ်တွင် B.O.T စနစ်ဖြင့် ငှားရမ်းခဲ့ပြီး ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဖြင့် ၂၀၁၄ ခုနှစ် ဇန်နဝါရီလမှစ၍ ဟိုတယ်လုပ်ငန်းကို စတင်လည်ပတ်ခဲ့ပါကြောင်းနှင့် ကာကွယ်ရေးဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး၏ ညွှန်ကြားချက်အရ နှစ်ရှည် (၅၀+၁၀+၁၀)နှစ် ငှားရမ်းခွင့် ရရှိရန် အတွက် ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြထားပါသည်။

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအသစ်များ နှင့် ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ပြီး ထပ်မံတိုးချဲ့ ဆောင်ရွက်သည့် လုပ်ငန်းများကိုသာ ခွင့်ပြုပေးကြောင်း နှင့် ယခုတင်ပြသောအဆိုပြုလုပ်ငန်းသည် ဆောင်ရွက်ဆဲ လုပ်ငန်းအဟောင်းဖြစ်သဖြင့် အဆိုပြုချက် အား ပြန်လည်ပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
Kyauk Seinn Nagar (Gems) Co., Ltd.
ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ✓

အကြောင်းအရာ။ **ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ မြေ(၆. ၆၀)ဧကအား ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်အတွက်Kyauk Seinn Nagar( Gems) Co.,Ltdသို့ ငှားရမ်းခွင့် တင်ပြခြင်း**

၁။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၆. ၆၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Kyauk Seinn Nagar( Gems) Co.,Ltd**မှ အောက်ပါအတိုင်းတင်ပြလာခဲ့ပါသည်-

(က) **ကုမ္ပဏီအမည်။ Kyauk Seinn Nagar( Gems) Co.,Ltd**။

(ခ) **အဆိုပြုမြေ။** ရခိုင်ပြည်နယ်၊သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ငပလီကမ်းခြေရှိမြေ(၆. ၆၀)ဧက။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဟိုတယ်လုပ်ငန်းများ။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာကျပ်ငွေ(၇၁၆၉)သန်း။

(င) **ငှားရမ်းလိုသည့်နှစ်။** (၅၀+၁၀+၁၀)နှစ်(၇၀)( B.O.T )

(စ) **မြေငှားရမ်းခ။** မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းမည်ဖြစ်ပါသည်-

(၁) မြေ(၆. ၆၀)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေး မြေ(၁)ဧကလျှင်မြန်မာငွေကျပ် (၂၅၀၀)သိန်းနှုန်းဖြင့် မြေ(၆. ၆၀)ဧကအတွက် ကျသင့်ငွေ(၁၆၅၀၀)သိန်းအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍(၄)ကြိမ်ခွဲပြီးပေးသွင်းပါမည်။

(၂) မြေငှားရမ်းခအဖြစ်မြန်မာငွေကျပ်(၃၃၀)သိန်းနှင့်US$ (၁၆၅၀၀)ကို(၁)နှစ်လျှင်(၁)ကြိမ် ပေးသွင်းပါမည်။

၂။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၆. ၆၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Kyauk Seinn Nagar( Gems) Co.,Ltd** သို့ ငှားရမ်းခွင့်နှင့်ပတ်သက်၍ကုန်သွယ်မှုမူဝါဒကောင်စီ၏၁၆-၈-၂၀၀၇ရက်စွဲပါစာအမှတ်၊ အမစ/ ကသ/၃/၂၅(၅၈၀/၂၀၀၇)အရ သဘောတူခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

Hotel(9)-34

၃။ **Kyauk Seinn Nagar( Gems) Co.,Ltd** သို့ ငှားရမ်းမည့်မြေ(၆. ၆၀)ဧကမှာ အမှတ်(၅၅) ခြေလျင်တပ်ရင်း(တိုးချဲ့)တပ်ပိုင်မြေ မြပြင်ကြေးတိုင်ပြင်ကွင်းရှိ မြေ(၆၃. ၀၅)ဧကသည် ပြည်ထဲရေးဝန်ကြီးဌာန၏ ၁၄-၅-၂၀၀၁ ရက်စွဲပါစာအမှတ်၊ ၂၀၀/၂-၄/ဦး၁နှင့် ၂၀၀/၂-၅/ဦး၁အရ တပ်ပိုင်မြေအမည်ပေါက်ရရှိပြီးဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုဥပဒေသစ်ဖြင့် နှစ်ရှည်(၅၀+၁၀+၁၀)နှစ်(၇၀) ( B.O.T )စာချုပ်ချုပ်ဆိုနိုင်ရေး ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)ခွင့်ပြုချက်အရ **Kyauk Seinn Nagar( Gems) Co.,Ltd** သို့ မြေငှားရမ်းခြင်းအတွက် စာချုပ်ချုပ်ဆိုနိုင်ရေးပြင်ဆင်ထားရှိပြီး စာချုပ်နှင့် ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ အကြံပြုချက်များရရှိပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊မြပြင်ကျေးရွာ၊ ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၆. ၆၀)ဧကအားငှားရမ်း၍**Kyauk Seinn Nagar( Gems) Co.,Ltd**မှ ဟိုတယ်လုပ်ငန်းများတည်ဆောက် လုပ်ကိုင်ရန်အတွက် ငှားရမ်းခြင်းဆိုင်ရာလုပ်ငန်းများနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုအချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလို စိစစ်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ။** စာချုပ်(မူကြမ်း) (၁)စုံ။

စစ်ထောက်ချုပ် (ကိုယ်စား)

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

Hotel(9)-35

Jade Marina Resort & Spa (Ngapali)
Shwe War Chaing Beach, Myapyin Village Tract, Thandwe Ts,





Jade Marina Resort & Spa (Ngapali) Bungalow(Villa) living room(outside)



Jade Marina Resort & Spa (Ngapali) Bungalow Back Side



Jade Marina Resort & Spa (Ngapali) One of Two Storey Buildings



Jade Marina Resort & Spa (Ngapali) Bungalow(villa)Bed room (Ground floor)



Jade Marina Resort & Spa (Ngapali) Bungalow(Villa) Bathroom (inside)



Jade Marina Resort & Spa (Ngapali) Bungalow(Villa) Shower (outside)



Jade Marina Resort & Spa, Ngapali Two Storey Building Suite, Bed Room



Suite, Living Room



Jade Marina Resort & Spa, Ngapali Two Storey Building Suite, Bathroom








# I.E.M COMPANY LIMITED

No 15, East Race Course Road, Tamwe Township, Yangon 11211, Union of Myanmar. Tel : 95-1-546064, 543037, 540673
Fax : 95-1-540673 E-mail : [illegible], iemmsales@baganmail.net.mm
Website : http://www.iemmyanmar.com

## CASH RECEIPT

**NO : 6398 / 13**

Date : 24 Apr 2013

Customer : Jade Marina Resort, Ngapali (Kyauk Seinn Nagar)

| No. | Particulars | Unit | Qty | Price | Amount |
|---|---|---|---|---|---|
| 1 | Brand New 410 KVA KOHLER Generator | No | 1 | | USD 56,000<br>USD 30,327 |
| 2 | Brand New 200 KVA KOHLER Generator<br>(DEC 4000 Control Panel,<br>DIGITAL SYSTEM) | No | 1 | | USD 86,327 |
| | *(Exchange Rate 856 Kyats per USD - Total Value Equivalent Myanmar Kyat 73,896,000 )* | | | | |
| | | | 1 st Payment | | USD 8,627 |
| | | | 2 nd Payment | | USD 50,000 |
| | | | This Payment | | USD 27,700 |

(In words : United State Dollar Twenty Seven Thousand And Seven Hundred Only)

Received By
I.E.M Company Limited
15, East Race Course Road, Tamwe Township

Paid By
Jade Marina Resort
Kyauk Seinn Nagar (Gems) Co., Ltd.

IKON Mart

# IKON Trading Co.,Ltd.

No. 332, Pyay Road, San Chaung P.O (11111), Yangon, Myanmar.
Tel: 95-1-535783, 527705, 501429. Fax : 95-1-527705. Email: sales-ikon@myanmar.com.mm

# INVOICE

| | |
|---|---|
| Invoice: | INV02416 |
| Date: | 18/09/2013 |
| Customer No.: | 3002/533 |
| Bill to: | JADE MARINA |

CREDIT LIMIT : 7 DAYS

| Item No. | Description | Quantity | Unit | List Price | Disc: % | Amount |
|---|---|---|---|---|---|---|
| | Washing Machine, Primus 22 | 1 | No | 14,334,000 | - | 14,334,000 |
| 000ME2061 | EL HOOD TYPE DISHWASHER, SOR/ROW | 1 | No | 3,969,000 | - | 3,969,000 |
| | 752x755x1547MM | | | | | - |

| | |
|---|---|
| TOTAL AMOUNT | 18,303,000 |
| DISCOUNT | - |
| GRAND TOTAL | 18,303,000 |
| DEPOSIT AT ORDER CONFIRMED DATE | 500,000 |
| BALANCE MAUNT AT DELEVERY DATE | 17,803,000 |

PAID

Customer

Received
IKON MART

